ပုံစံ (မနသ-၂)

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်
# ခွင့်ပြုမိန့်

ခွင့်ပြုမိန့် အမှတ်၊မနသ- ၁၂၅၈/ ၂၀၁၇ ။ ၂၀၁၇ ခုနှစ်၊ ဇွန်လ ၂၁ ရက်

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၂ (ခ) အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည်။

(က) **ရင်းနှီးမြှုပ်နှံသူ၏အမည်** ဦးမောင်မောင်အုန်း

(ခ) **အဘ အမည်** ဦးထိုက်ကျော်

(ဂ) **နိုင်ငံသား/ အမျိုးသားမှတ်ပုံတင်အမှတ်** ၆/ထဝန(နိုင်) ၀၂၆၅၈၄

(ဃ) **နေရပ်လိပ်စာ** အမှတ်-၅၂၇/၅၂၉၊အောက်ပုဇွန်တောင်လမ်း၊ပုဇွန်တောင်မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး

(င) **ဖွဲ့စည်းထားသည့် သို့မဟုတ် ဖွဲ့စည်းမည့်အဖွဲ့အစည်း** မြင့်မြတ်ကျော်စက်မှုလက်မှု ကုမ္ပဏီ လီမိတက်(Myint Myat Kyaww Industry Company Limited)

(စ) **ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့်လုပ်ငန်းအမျိုးအစား** စတီးနှင့် အိပ်(ချ)ဘင်းမ်များကို အသုံးပြုထုတ်လုပ်ထားသော ဆောက်လုပ်ရေးလုပ်ငန်းသုံးပစ္စည်းများ ထုတ်လုပ်ရောင်းချခြင်း လုပ်ငန်း

(ဆ) **ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့်အရပ်ဒေသ(များ)** မြေကွက်အမှတ်-၅၆၁၊ဦးပိုင်အမှတ်-၁၀+၁၁+၁၃+၁၄၊ လှော်ကားကျေးရွာအုပ်စု၊ ရွှေပြည်သာမြို့နယ် ၊ ရန်ကုန်တိုင်းဒေသကြီး

(ဇ) **မတည်ငွေရင်းပမာဏ(ကျပ်)** ကျပ် ၄၉,၉၅၀ သန်း (US$၂၅.၄၃သန်း အပါအဝင် ကျပ်လေးသောင်းကိုးထောင့် ကိုးရာ ငါးဆယ်သန်း တိတိ)

(ဈ) **တည်ဆောက်မှုကာလ** ၂၄ လ

21.6.17

ဥက္ကဋ္ဌ

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်**
**မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်**
**အမိန့်ကြော်ငြာစာအမှတ်၊ ၄၃ /၂၀၁၇(မနသ)**
**၂၀၁၇ ခုနှစ် ဖွန်လ ၂၁ ရက်**

၁။ မြင့်မြတ်ကျော် စက်မှုလက်မှုကုမ္ပဏီလီမိတက် (Myint Myat Kyaww Industry Company Limited) သည် ရန်ကုန်တိုင်းဒေသကြီး၊ ရွှေပြည်သာမြို့နယ်၊ လှော်ကားကျေးရွာ အုပ်စုဦးပိုင်အမှတ်-(၁၀+၁၁+၁၃+၁၄)၊ အမှတ်(၅၆၀)ရှိစုစုပေါင်း ၉.၃၄ ဧကအနက်မှ မြေဧရိယာ ၅ ဧက (၂၀,၂၃၄.၃ စတုရန်းမီတာ)တွင် စတီးနှင့်အိပ်(ချ်)ဘင်းမ်များကိုအသုံးပြု ထုတ်လုပ်ထားသော ဆောက်လုပ်ရေးလုပ် ငန်းသုံးပစ္စည်းများ ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြချက်အား ၂၀၁၇ ခုနှစ် မေလ ၂၀ ရက်နေ့တွင် ကျင်းပသော မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၈/၂၀၁၇) အစည်းအဝေး၌ တင်ပြခဲ့ရာ ခွင့်ပြုကြောင်း ဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါဆုံးဖြတ်ချက်အရ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေအခန်း(၇)၊ ပုဒ်မ ၁၂(ခ)အရ အပ်နှင်းထားသော လုပ်ပိုင်ခွင့်များကို ကျင့်သုံးလျက် မြင့်မြတ်ကျော် စက်မှုလက်မှု ကုမ္ပဏီလီမိတက် (Myint Myat Kyaww Industry Company Limited)အား စတီးနှင့်အိပ်(ချ်) ဘင်းမ်များကို အသုံးပြု၍ အသင့်ဖန်တီးထုတ်လုပ်ထားသော ဆောက်လုပ်ရေးလုပ်ငန်းသုံး ပစ္စည်းများ ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းကို ဆောင်ရွက်နိုင်ရန်အတွက် ခွင့်ပြုမိန့်အမှတ်၊ မနသ-၁၂၅၈/၂၀၁၇ ကို ထုတ်ပေးလိုက်သည်။

၂။ မြင့်မြတ်ကျော် စက်မှုလက်မှု ကုမ္ပဏီလီမိတက် (Myint Myat Kyaww Industry Company Limited) သည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ အမိန့်ကြော်ငြာစာ အမှတ် ၁၂၃/၂၀၁၆ (၁၆-၁၁-၂၀၁၆)အရ သတ်မှတ်ထားသောကာလအတွင်း တင်ပြခဲ့သဖြင့် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှု လုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေအခန်း (၁၁)အရ ဝင်ငွေခွန် ကင်းလွတ်ခွင့်နှင့် အောက်ဖော်ပြပါ အခွန်ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုနိုင်ရန် ဤအမိန့်ကြော်ငြာစာကို ထုတ်ပြန်လိုက်သည် -

(က) ဥပဒေပုဒ်မ ၂၀(က)အရ ထုတ်လုပ်မှုလုပ်ငန်း စီးပွားဖြစ် စတင်သော နှစ်အပါအဝင် တစ်ဆက်တည်း(၅)နှစ်အထိ ဝင်ငွေခွန် ကင်းလွတ်ခွင့်ပြုသည်။

(ခ) ဥပဒေပုဒ်မ ၂၀(ဂ) အရ လုပ်ငန်းမှ ရရှိသောအမြတ်ငွေကို သီးသန့်ရန်ပုံငွေထား၍ တစ်နှစ်အတွင်းလုပ်ငန်း၌ ပြန်လည်ရင်းနှီးမြှုပ်နှံလျှင် ထိုအမြတ်ငွေအပေါ် ဝင်ငွေခွန် ကင်းလွတ်ခွင့် (သို့မဟုတ်) သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန်ကင်းလွတ်ခွင့်ကာလ ကုန်ဆုံးပြီး၍ အမှန်တကယ် ပြန်လည် ရင်းနှီးမြှုပ်နှံသည့်အခါ လုပ်ငန်းအမှန်တကယ် အကောင်အထည်ဖော်မှုအခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဂ) ဥပဒေပုဒ်မ ၂၀(ဃ) အရ လုပ်ငန်းက ထုတ်လုပ်သည့်ပစ္စည်းကို ပြည်ပသို့ တင်ပို့ရောင်းချလျှင် ထိုသို့တင်ပို့ရောင်းချ၍ရရှိသော အမြတ်ငွေပေါ်တွင် ၅၀ ရာခိုင်နှုန်းအထိ ဝင်ငွေခွန် သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် (၅)နှစ် ခံစားပြီးနောက် လုပ်ငန်း၏ အမှန်တကယ်အကောင်အထည်ဖော်နိုင်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဃ)ဥပဒေပုဒ်မ ၂၀(စ)အရ ဝင်ငွေခွန်ကင်းလွတ်ခွင့်ခံစားပြီး တစ်ဆက်တည်း နှစ်နှစ်အတွင်း အမှန်တကယ် ပေါ်ပေါက်သည့် အရှုံးငွေကို ယင်းသို့ အရှုံးပေါ်ပေါက်သည့် နှစ်မှစ၍ တစ်ဆက်တည်း သုံးနှစ်ကာလအထိ သယ်ယူခုနှိမ်ခွင့်ကို လုပ်ငန်း အမှန်တကယ် အကောင်အထည်ဖော်မှုအခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(င) ဥပဒေပုဒ်မ ၂၀(ဆ)အရ လုပ်ငန်းစတင်တည်ဆောက်မှုကာလအတွင်း အမှန်တကယ်အသုံးပြုရန် လိုအပ်၍ ပြည်ပမှတင်သွင်းသော ယာဉ်ယန္တရား၊ စက်ပစ္စည်း၊ စက်ကိရိယာ၊ အသုံးအဆောင် တန်ဆာပလာ၊ စက်ကိရိယာအစိတ်အပိုင်း၊ စက်အရန်ပစ္စည်း၊ လုပ်ငန်းသုံးပစ္စည်းများအပေါ်တွင် အကောက်ခွန်နှင့် အခြား ပြည်တွင်းအခွန်အကောက်များ ကင်းလွတ်ခွင့်ကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(စ) ဥပဒေပုဒ်မ၂၀(ဇ)အရ ဝင်ငွေခွန်စည်းကြပ်ရန်အလို့ငှာ ယာဉ်ယန္တရား၊ စက်ပစ္စည်းကိရိယာ၊ အဆောက်အဦ သို့မဟုတ် လုပ်ငန်းသုံးအခြားမတည်ပစ္စည်းများ အပေါ်တွင် နိုင်ငံတော်ကသတ်မှတ်ထားသည့် ပစ္စည်းတန်ဖိုးလျော့တွက်နှုန်းများအတိုင်း တွက်ချက်ပြီး ပစ္စည်းတန်ဖိုးလျော့တွက်ငွေကို အမြတ်ငွေထဲမှ နုတ်ပယ်ခွင့်နှင့် စပ်လျဉ်း၍ ယင်းတန်ဖိုးလျော့နှုန်းထားများကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဆ)ဥပဒေပုဒ်မ၂၀(ဈ)အရ လုပ်ငန်းတည်ဆောက်မှု ပြီးစီး၍ ပထမသုံးနှစ်အတွက် ကုန်ထုတ်လုပ်ရန် တင်သွင်းသည့် ကုန်ကြမ်းများအပေါ်တွင် အကောက်ခွန်ဖြစ်စေ၊ အခြား ပြည်တွင်း အခွန်အကောက်များ ဖြစ်စေ၊ နှစ်မျိုးလုံးကိုဖြစ်စေ ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့်ကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဇ) ဥပဒေပုဒ်မ၂၀(ည)အရ ရင်းနှီးမြှုပ်နှံမှုပမာဏ တိုးမြှင့်ပြီး မူလရင်းနှီးမြှုပ်နှံသည့်လုပ်ငန်းကို ခွင့်ပြုထားသည့် သက်တမ်းကာလအတွင်း အမှန်တကယ် အသုံးပြုရန် လိုအပ်၍ ပြည်ပမှတင်သွင်းသော ယာဉ်ယန္တရားများ၊ စက်ပစ္စည်းများ၊ စက်ကိရိယာများ၊ အသုံးအဆောင်တန်ဆာပလာများ၊ စက်ကိရိယာအစိတ်အပိုင်းများ၊ စက်အရန်ပစ္စည်းများ၊ လုပ်ငန်းသုံးပစ္စည်းများအပေါ်တွင် အကောက်ခွန်နှင့် အခြားပြည်တွင်းအခွန်အကောက်များ ကင်းလွတ်ခွင့်ကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

၃။ မြင့်မြတ်ကျော် စက်မှုလက်မှုကုမ္ပဏီလီမိတက် (Myint Myat Kyaww Industry Company Limited) ကနဦး Test Run ကာလအတွက် တင်သွင်းမည့် ကုန်ကြမ်းပစ္စည်းများအား ကျသင့်သည့်အခွန် ပေးဆောင်၍ တင်သွင်းရမည် ဖြစ်ပါသည်။

၄။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၂၀(ဆ)အရ ပြည်ပမှ တင်သွင်းသည့် ယာဉ်ယန္တရား၊ စက်ပစ္စည်း၊ စက်ကိရိယာ၊ အသုံးအဆောင် တန်ဆာပလာ၊ စက်ကိရိယာ အစိတ်အပိုင်း၊ စက်အရန်ပစ္စည်း၊ လုပ်ငန်းသုံးပစ္စည်းများ တင်သွင်းရာတွင် တင်သွင်းမည့်ပစ္စည်း အမျိုးအစား၊ အရည်အသွေး၊ စံချိန်စံညွှန်းများ၊ ဈေးနှုန်းများ သင့်မြတ်မှု စသည်တို့နှင့် စပ်လျဉ်း၍ နိုင်ငံတကာ အသိအမှတ်ပြုထားသည့် စစ်ဆေးရေးကိုယ်စားလှယ် (Inspection Agency)၏ စစ်ဆေးမှုဖြင့် ဆောင်ရွက်ရမည်။

၅။ မြင့်မြတ်ကျော် စက်မှုလက်မှု ကုမ္ပဏီလီမိတက် (Myint Myat Kyaww Industry Company Limited)သည် ဤခွင့်ပြုမိန့်အရ လုပ်ငန်းဆောင်ရွက်ရာတွင် မူလ အဆိုပြုလွှာ၌ ဖော်ပြထားသည့် ထုတ်လုပ်မှု ရည်မှန်းချက်များကို အနိမ့်ဆုံးရည်မှန်းချက်များ အဖြစ်ထားရှိ ဆောင်ရွက် အကောင် အထည်ဖော်ရမည်။

၆။ မြင့်မြတ်ကျော် စက်မှုလက်မှု ကုမ္ပဏီလီမိတက် (Myint Myat Kyaww Industry Company Limited)၏အဆိုပြုလုပ်ငန်း၏ စာရင်းများကို သီးခြားပြုစုထား ရှိရမည်။

၇။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် မြေအသုံးပြုမှုနှင့် စပ်လျဉ်း၍ နိုင်ငံတော် အစိုးရမှ မြေယာနှင့်ပတ်သက်၍ သတ်မှတ်ပြဋ္ဌာန်းသည့် စည်းကမ်းချက်များကို တိကျစွာလိုက်နာ ဆောင်ရွက်ရမည်။

၈။ မြင့်မြတ်ကျော် စက်မှုလက်မှု ကုမ္ပဏီလီမိတက် (Myint Myat Kyaww Industry Company Limited)သည်အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေးထိခိုက်ပျက်စီးမှုများ လျော့နည်းစေရေးတို့အတွက် ကနဦးပတ်ဝန်းကျင် ဆန်းစစ်ခြင်း (Initial Environmental Examination-IEE) နှင့် ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ် (Environmental Management Plan-EMP) ကို ပြုလုပ်ဆောင်ရွက်ပြီး ယင်းဆောင်ရွက် ပြီးစီးမှု အခြေအနေကို သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာနသို့ ပေးပို့အစီရင်ခံရမည်။

၉။ မြင့်မြတ်ကျော် စက်မှုလက်မှု ကုမ္ပဏီလီမိတက် (Myint Myat Kyaww Industry Company Limited) သည် အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန်အတွက် ပြည်တွင်းအလုပ်သမားများ ခန့်ထားရာတွင် အလုပ်သမား၊ လူဝင်မှုကြီးကြပ်ရေးနှင့် ပြည်သူ့အင်အားဝန်ကြီးဌာန၊ အလုပ်သမား ညွှန်ကြားရေး ဦးစီးဌာနနှင့် ညှိနှိုင်းဆောင်ရွက်ရမည်။ ထို့အပြင် အလုပ်ရှင်နှင့် အလုပ်သမား ဆက်ဆံရေး ပြေလည်စေရန် အလေးထားဆောင်ရွက်ရမည်။ လုပ်ငန်းခွင်သာယာရေးနှင့် စာရင်းဇယားများ စနစ်တကျရှိစေရေးအတွက် အဆိုပြုချက်တွင် တင်ပြထားသည့်အတိုင်း စီစဉ်ဆောင်ရွက်ရမည်။

၁၀။ မြင့်မြတ်ကျော် စက်မှုလက်မှု ကုမ္ပဏီလီမိတက် (Myint Myat Kyaww Industry Company Limited) သည် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှုလုပ်ငန်း ဆောင်ရွက်ရာ၌ မီးဘေးအန္တရာယ် မဖြစ်ပေါ်စေရန်အတွက် လိုအပ်သည့် မီးဘေးအန္တရာယ် ထိန်းသိမ်းကာကွယ်ရေး အစီအမံများကို ဝန်ခံကတိပြုထားသည့်အတိုင်း စနစ်တကျထားရှိ ဆောင်ရွက်ရမည်ဖြစ်ပြီး မီးသတ်ဦးစီးဌာန၏ နည်းဥပဒေများ၊ လုပ်ထုံးလုပ်နည်းများ ညွှန်ကြားချက်များနှင့် အမိန့်များကို တိကျစွာ လိုက်နာ ဆောင်ရွက်ရမည်။ ထို့ပြင် ရေသိုလှောင်ကန်၊ မီးသတ်ဆေးဘူးများကဲ့သို့ မီးဘေးအန္တရာယ် ကြိုတင် ကာကွယ်မှု ဆောင်ရွက်ချက်များကို ဆောင်ရွက်ရမည်ဖြစ်ပြီး မီးငြိမ်းသတ်ရေးလုပ်ငန်းသုံးပစ္စည်း များကို အသုံးပြုတတ်စေရန် သင်တန်းများပေးရမည်။

၁၁။ ထို့ပြင် ပတ်ဝန်းကျင် လေထု၊ ရေထု၊ မြေထု ညစ်ညမ်းမှုများ မဖြစ်ပေါ်စေရန်အတွက် လိုအပ်သည့် ပတ်ဝန်းကျင် ညစ်ညမ်းမှု ထိန်းသိမ်းကာကွယ်ရေး အစီအမံများကို ဝန်ခံကတိပြုထားသည့်အတိုင်း စနစ်တကျထားရှိ ဆောင်ရွက်ရမည်ဖြစ်ပြီး နိုင်ငံတော်မှ ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင် ထိန်းသိမ်းရေးမူဝါဒ၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေ၊ အခြားသော ပတ်ဝန်းကျင် ထိန်းသိမ်းရေးဆိုင်ရာ နည်းဥပဒေများ၊ ညွှန်ကြားချက်များ၊ လုပ်ထုံးလုပ်နည်းများနှင့်အညီ တိကျစွာ လိုက်နာ ဆောင်ရွက်ရမည်။ ယင်းသို့ ဆောင်ရွက်ထားမှု အခြေအနေကို ဤကော်မရှင်သို့ **မပျက်မကွက်** အစီရင်ခံရမည်။

၁၂။ မြင့်မြတ်ကျော် စက်မှုလက်မှု ကုမ္ပဏီလီမိတက် (Myint Myat Kyaww Industry Company Limited)သည် ပုဂ္ဂလိကစက်မှုလုပ်ငန်း ဥပဒေအရ ရန်ကုန်တိုင်းဒေသကြီး စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေးဦးစီးဌာနတွင် ပုဂ္ဂလိကစက်မှုလုပ်ငန်း မှတ်ပုံတင်ထားရှိ ဆောင်ရွက်ရမည်။ ထုတ်လုပ်မည့် ဓာတ်လှေကားအစိတ်အပိုင်းများ၏ အရည်အသွေးအသိအမှတ်ပြု လက်မှတ်အား စက်မှုကြီးကြပ် ရေးနှင့် စစ်ဆေးရေးဦးစီးဌာနသို့ စစ်ဆေးခံ၍ လျှောက်ထားရမည်။

၁၃။ မြင့်မြတ်ကျော် စက်မှုလက်မှု ကုမ္ပဏီလီမိတက် (Myint Myat Kyaww Industry Company Limited) သည် ကနဦးလုပ်ငန်း ဆောင်ရွက်မှု အစီရင်ခံစာကို ဤခွင့်ပြုမိန့်ရရှိပြီး (သုံး)လ အတွင်း ဤကော်မရှင်သို့ **မပျက်မကွက်** အစီရင်ခံရမည်။ ထို့အပြင် လုပ်ငန်းအကောင်အထည် ဖော်မှု အခြေအနေ များကို သတ်မှတ်ထားသော ပုံစံဇယားများဖြင့် (၃)လ တစ်ကြိမ် **မပျက်မကွက်** ပုံမှန်ပေးပို့ အစီရင်ခံရမည်။ အဆိုပြုလုပ်ငန်း၏ စီးပွားဖြစ်စတင်ဆောင်ရွက်သည့်နေ့ရက်ကို စီးပွားဖြစ် စတင်ပြီး (တစ်) လ အတွင်း ဤကော်မရှင်သို့ **မပျက်မကွက်** အစီရင်ခံရမည်။

၁၄။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်ခွင့်ပြုမိန့်တွင် ဖော်ပြထားသည့် ရင်းနှီးမြှုပ်နှံမှု ပြုလုပ်သည့် နေရပ်ဒေသလိပ်စာနှင့် ရင်းနှီးမြှုပ်နှံသူ၏ အဖွဲ့အစည်း၏ နေရပ်လိပ်စာ (ကုမ္ပဏီ၏ ရုံးခန်းလိပ်စာနှင့် တယ်လီဖုန်းနံပါတ်)တို့ ပြောင်းလဲမှုရှိတိုင်း ဤကော်မရှင်သို့ **မပျက်မကွက်**တင်ပြ၍ အတည်ပြုခွင့်ပြုချက်ကို ရယူရမည်။

၁၅။ မြင့်မြတ်ကျော် စက်မှုလက်မှု ကုမ္ပဏီလီမိတက် (Myint Myat Kyaww Industry Company Limited) သည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်နှင့် သက်ဆိုင်ရာဝန်ကြီးဌာန

များမှချမှတ်ထားသော တည်ဆဲစည်းမျဉ်းစည်းကမ်း သတ်မှတ်ချက်များနှင့်အညီ လိုက်နာဆောင်ရွက်ရမည်။

၁၆။ အဆိုပြုလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ရမည်ဖြစ်သဖြင့် မည်သည့် နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းကမျှ ပိုင်ဆိုင်ခြင်း သို့မဟုတ် တစ်နည်းနည်းဖြင့် စီမံခန့်ခွဲခြင်းမရှိစေရ။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ထုတ်ပေးထားသော ခွင့်ပြုမိန့်၊ သက်ဆိုင်ရာဌာနများမှ ထုတ်ပေးထားသော လုပ်ငန်းလိုင်စင်များနှင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုမိန့်ဖြင့် ပြည်ပမှတင်သွင်းသည့် ပစ္စည်းများကို တစ်ဆင့် လွှဲပြောင်းခြင်း၊ ရောင်းချခြင်းမပြုရ။ အကယ်၍ နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြားအဖွဲ့အစည်းက ပိုင်ဆိုင်ကြောင်း သို့မဟုတ် ခွင့်ပြုမိန့်၊ လုပ်ငန်းလိုင်စင် တို့ကို တစ်နည်းနည်းဖြင့် စီမံခန့်ခွဲကြောင်း သက်ဆိုင်ရာက စစ်ဆေးတွေ့ရှိလျှင် လိုအပ်သလို အရေးယူနိုင်ရေးအတွက် သက်ဆိုင်ရာအစိုးရဌာန၊ အဖွဲ့အစည်းနှင့် ညှိနှိုင်းဆောင်ရွက်မည့်အပြင် လုပ်ငန်း အဆိုပြုသူသည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေ ပုဒ်မ ၃၂(င)အရ နောင်တွင် မည်သည့်ခွင့်ပြုမိန့်မျှ ထုတ်ပေးမည်မဟုတ်သော နာမည်ပျက်စီးပွားရေးလုပ်ငန်းစာရင်း၌ ထည့်သွင်းခြင်းခံရမည်။

၁၇။ ဤခွင့်ပြုမိန့် ထုတ်ပေးသည့်နေ့မှစ၍ (တစ်)နှစ်အတွင်း အဆိုပြုလုပ်ငန်းကို စတင်ဆောင်ရွက်ခြင်းမပြုနိုင်ပါက ဤခွင့်ပြုမိန့်သည် အလိုအလျောက် ပျက်ပြယ်ပြီးဖြစ်သည်ဟုမှတ်ယူရမည်။

(ကျော်ဝင်း)
ဥက္ကဋ္ဌ

စာအမှတ် ၊ မရက-၃/မ-၁၄၄၉/၂၀၁၇( ၅၈၉-၁ )
ရက်စွဲ ၊ ၂၀၁၇ ခုနှစ် ဇွန်လ ၂၁ ရက်

**ဖြန့်ဝေခြင်း**

ပြည်ထောင်စုအစိုးရအဖွဲ့ရုံး
ပြည်ထဲရေးဝန်ကြီးဌာန
သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန
အလုပ်သမား၊ လူဝင်မှုကြီးကြပ်ရေးနှင့် ပြည်သူ့အင်အားဝန်ကြီးဌာန
စက်မှုဝန်ကြီးဌာန
စီးပွားရေးနှင့် ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာန
စီမံကိန်းနှင့် ဘဏ္ဍာရေးဝန်ကြီးဌာန
ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ရုံး
ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမားညွှန်ကြားရေးဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ လုပ်ငန်းမှုကြီးကြပ်ရေးဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေးဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေးဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ အမျိုးသားမှတ်တမ်းများမော်ကွန်းတိုက်ဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန်ဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်းအခွန်များဦးစီးဌာန
အုပ်ချုပ်မှုဒါရိုက်တာ၊ မြင့်မြတ်ကျော် စက်မှုလက်မှု ကုမ္ပဏီလီမိတက်
(Myint Myat Kyaww Industry Company Limited)

မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဖြင့်တင်ပြလာသော မြင့်မြတ်ကျော် စက်မှုလက်မှု ကုမ္ပဏီလီမိတက် (Myint Myat Kyaww Industry Company Limited)၏ ကော်မရှင်အစည်းအဝေးသို့ တင်ပြရန်ကြာချိန်

| စဉ် | အကြောင်းအရာ | ဆောင်ရွက်သည့် နေ့စွဲ | ပြန်ကြားချက် ရရှိသည့်နေ့စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁ | **အဆိုပြုလွှာလက်ခံရရှိခြင်း** | ၃၀-၁၂-၂၀၁၆ | | |
| ၂ | သဘောထားမှတ်ချက်တောင်းခံခြင်း | | | |
| | (က) ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ရုံး | ၁-၂-၂၀၁၇ | ၂၁-၄-၂၀၁၇ | |
| | (ခ) သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေး ဝန်ကြီးဌာန | ၁-၂-၂၀၁၇ | ၈-၂-၂၀၁၇ | |
| | (ဂ) စက်မှုဝန်ကြီးဌာန | ၁-၂-၂၀၁၇ | ၂၃-၂-၂၀၁၇ | |
| ၃ | အဆိုပြုချက်စိစစ်ရေးအဖွဲ့အစည်းအဝေး(၂/၂၀၁၇)သို့ တင်ပြခြင်း | | | |
| ၄ | အဆိုပြုလွှာလက်ခံကြောင်းစာပေးပို့ခြင်း | ၁၁-၁-၂၀၁၇ | | |
| ၆ | ကုမ္ပဏီမှ လိုအပ်ချက်များ ပြင်ဆင်၍ အဆိုပြုလွှာ ပြန်လည်တင်ပြခြင်း | ၃၀-၁-၂၀၁၇ | | |
| ၇ | **အဆိုပြုလွှာအားပြန်လည်ပေးပို့ခြင်း** | ၂၁-၃-၂၀၁၇ | | |
| ၈ | **အဆိုပြုလွှာအားပြန်လည်တင်ပြခြင်း** | ၄-၅-၂၀၁၇ | | |
| ၉ | အဆိုပြုလွှာအစုံ (၁၀)ပေးပို့ခြင်း | | ၉-၅-၂၀၁၇ | |
| | **စုစုပေါင်းကြာမြင့်ရက်** | ၁၂၉ ရက် | | |

| | | |
|---|---|---|
| ကုမ္ပဏီအမည် | - | မြင့်မြတ်ကျော် စက်မှုလက်မှုကုမ္ပဏီလီမိတက် (Myint Myat Kyaww Industry Company Limited) |
| အဖွဲ့အစည်းပုံသဏ္ဍာန် | - | မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု |
| လုပ်ငန်းအမျိုးအစား | - | စတီးနှင့်အိပ်(ချ်)ဘင်းမ်များကို အသုံးပြုထုတ်လုပ်ထားသော ဆောက်လုပ်ရေးလုပ်ငန်းသုံး ပစ္စည်းများ ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း |
| တည်နေရာ | - | အမှတ်(၅၆၁) ၊ ဦးပိုင်အမှတ်-(၁၀+၁၁+၁၃+၁၄)၊လှော်ကားကျေးရွာအုပ်စု၊ ရွှေပြည်သာမြို့နယ် ၊ ရန်ကုန်တိုင်းဒေသကြီး |
| စုစုပေါင်းမတည်ငွေရင်းပမာဏ | - | ကျပ် ၄၉,၉၅၀ သန်း(US$ ၂၅.၄၃ သန်း အပါအဝင်) |
| ရောင်းချမည့်စနစ် | - | ပြည်တွင်း ၁၀၀% |
| အရင်းကြေကာလ | - | ၆ နှစ် |
| IRR | - | ၁၆.၀၄ % |

အထက်ပါလုပ်ငန်းဆောင်ရွက်ခြင်းဖြင့်နိုင်ငံတော်၏ Cost & Benefit ကိုအောက်ပါဇယားဖြင့်ပြုစုတင်ပြအပ်ပါသည်-

| စဉ် | အကြောင်းအရာ | Cost (ကျပ်/သန်း) | Benefit (ကျပ်/သန်း) |
|---|---|---|---|
| ၁ | နိုင်ငံဝန်ထမ်း၏လစာ | ၃.၀၀(တစ်နှစ်) | |
| ၂ | ကုမ္ပဏီမှတ်ပုံတင်ကြေး | - | ၀.၆၆၅ |
| ၃ | သွင်းကုန်အခွန်ကင်းလွတ်ခွင့် | ၉.၉၂၄ | |
| ၄ | ကုန်သွယ်လုပ်ငန်းခွန် | ၁၆၁.၉၆၅ | ၄၉၆.၁၁၅ |
| ၅ | ဝင်ငွေခွန် | ၈၀၉.၉၂၉ | ၂၄၈၀.၅၈၃ |
| ၆ | ရေ/လောင်စာဆီ/လျှပ်စစ်မီးသုံးစွဲခ | | ၆.၂၅ |
| ၇ | လုပ်ခလစာအပေါ်ဝင်ငွေခွန် | | ဝင်ငွေခွန်ဥပဒေအတိုင်းထမ်းဆောင်ပါမည်။ |
| ၈ | CSR ၂ % | | ၁၆.၅၇၀ |
| ၉ | အလုပ်အကိုင်အခွင့်အလမ်း | | ပြည်တွင်းလုပ်သား (၂၄၇)ဦးအလုပ်အကိုင် ရရှိမည်ဖြစ်၍ ဒေသအလုပ်အကိုင်အခွင့်အလမ်းနှင့် ဒေသစီးပွားရေးဖွံ့ဖြိုး တိုးတက်မှုကို အထောက်အကူပြုစေပါသည်။ အလုပ်အကိုင်အခွင့်အလမ်းများ ပိုမိုရရှိစေပြီး ဆင်းရဲနွမ်းပါးမှု လျော့ချရေးကို အထောက်အကူပြုစေနိုင်ပါသည်။ |
| | စုစုပေါင်း | ကျပ် ၉၈၄.၈၁၈ သန်း | ကျပ် ၃၀၀၀.၁၈၃ သန်း |
| | Cost : Benefit | ၁ : ၃ | |

| | |
|---|---|
| အကြောင်းအရာ။ | မြင့်မြတ်ကျော် စက်မှုလက်မှုကုမ္ပဏီလီမိတက် (Myint Myat Kyaww Industry Company Limited) မှ စတီးနှင့်အိပ်(ချ်)ဘင်းမ်များကို အသုံးပြုထုတ်လုပ်ထားသော ဆောက်လုပ်ရေးလုပ်ငန်းသုံးပစ္စည်းများထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းအား မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်းကိစ္စ |

| | | |
|---|---|---|
| ၁ | ကုမ္ပဏီအမည် | - မြင့်မြတ်ကျော်စက်မှုလက်မှုကုမ္ပဏီ လီမိတက်<br>- (Myint Myat Kyaww Industry Co., Ltd.) |
| ၂ | လုပ်ငန်းအဆိုပြုသူအမည် | - ဦးမောင်မောင်အုန်း(အဘ- ဦးထိုက်ကျော်) |
| ၃ | အဆိုပြုလုပ်ငန်းအမျိုးအစား | - စတီးနှင့်အိပ်(ချ်)ဘင်းမ်များကို အသုံးပြုထုတ်လုပ်ထားသော ဆောက်လုပ်ရေးလုပ်ငန်းသုံး ပစ္စည်းများ ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း |
| ၄ | လုပ်ငန်းတည်နေရာ | - ဦးပိုင်အမှတ်-၁၀+၁၁+၁၃+၁၄၊ ကရင်ချောင်းကွင်း၊ ကွင်းအမှတ်-၅၆၁၊ လှော်ကားကျေးရွာ၊ ရွှေပြည်သာမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး |
| | မြေပိုင်ရှင် | - ဦးမောင်မောင်အုန်း |
| | မြေအကျယ်အဝန်း | - ၉.၃၄ ဧကအနက်မှ ၅ ဧက (၂၀,၂၃၄.၃ စတုရန်းမီတာ) |
| | အဆောက်အဦအကျယ်အဝန်း | - ၁၈၀ ပေ x ၅၇၅ ပေ ၁ ထပ် စက်ရုံအဆောက်အဦ (၁) လုံး |
| ၅ | စုစုပေါင်းမတည်ငွေရင်းပမာဏ | **ကျပ် ၄၉,၉၅၀ သန်း (US$ ၂၅.၄၃ သန်းအပါအဝင်)**<br>**(ကျပ်သန်း)** |
| | - ငွေပမာဏ | ၁၈,၀၅၀.၂၅ |
| | - စက်ပစ္စည်းတန်ဖိုး(ပြည်ပ) | ၅,၃၈၁.၂၅ (US$ ၄.၃၀၅သန်း) |
| | - မြေနှင့်အဆောက်အဦငှားရမ်းခ | ၉၆.၀၀ |
| | - ပရိဘောဂနှင့်လုပ်ငန်းသုံးပစ္စည်းတန်ဖိုး | ၁၆.၂၅ |
| | - ကုန်ကြမ်းပစ္စည်း(ပြည်ပ) | ၂၆,၄၀၆.၂၅ (US$၂၁.၁၂၅ သန်း) |
| | - **စုစုပေါင်း** | **၄၉,၉၅၀.၀၀ (US$ ၂၅.၄၃ သန်းအပါအဝင်)** |
| ၆ | တည်ဆောက်ရေးကာလ | - ၂၄ လ |
| ၇ | ရောင်းချမည့်နည်းစနစ် | - ပြည်တွင်းတွင် ၁၀၀% ရောင်းချမည် ဖြစ်ပါသည်။ |
| ၈ | ထုတ်လုပ်မှုနှင့် ရောင်းချမည့်ဈေးနှုန်း (ဖြန့်ဖြူးမြောက်) | |

| **အမျိုးအစား** | **ရေတွက်ပုံ** | **ထုတ်လုပ်မှုအရေအတွက်** | **ရောင်းဈေးနှုန်း (ကျပ်/Unit)** |
|---|---|---|---|
| (က) H-Beam Column/Rafter | MT | ၄၂,၀၀၀ | ၇၂၀ |
| (ခ) Steel Column/Rafter | MT | ၄၅,၀၀၀ | ၇၈၂ |
| (ဂ) Roofing Sheet | MT | ၄၅,၀၀၀ | ၁,၁၇၀ |
| (ဃ) Opp Insulator | Roll | ၁၅,၀၀၀ | ၂၈၀ |
| (င) C-Channels | MT | ၂၃,၀၀၀ | ၉၀၀ |
| (စ) Decking Sheet | MT | ၂၂,၀၀၀ | ၉၀၀ |
| (ဆ) Bolts & Nuts | MT | ၁၈၉၀ | ၁,၂၅၀ |
| (ဇ) Screws | MT | ၁၈၅၀ | ၁,၂၅၀ |

| | | |
|---|---|---|
| ၉ | ကုမ္ပဏီဝင်ငွေ(၆ နှစ်မြောက်)<br>ကုမ္ပဏီအသုံးစရိတ်(၆ နှစ်မြောက်)<br>ကုမ္ပဏီအသားတင်အမြတ်(၆ နှစ်မြောက်) | - ကျပ် ၂၀၉,၃၂၀.၀၀ သန်း<br>- ကျပ် ၁၈၃,၂၅၂.၉၁ သန်း<br>- ကျပ် ၂၆,၀၆၇.၀၉ သန်း |
| ၁၀ | ဝန်ထမ်းအင်အားစုစုပေါင်း(ပထမနှစ်)<br>ပြည်တွင်း<br><br><br>ပြည်ပ | - **၂၅၀ ဦး**<br>- ၂၄၇ ဦး (ပြည်တွင်း ဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံး လစာ ကျပ် ၁၅၀,၀၀၀ နှင့် ဝန်ထမ်းတစ်ဦး၏ အမြင့်ဆုံး လစာ ကျပ် ၈၀၀,၀၀၀)<br>- ၃ ဦး (ပြည်ပဝန်ထမ်းများကိုလစာပေးရန်မလိုပဲ အချိန်ပိုင်းလာ ရောက်လေ့ကျင့်သင်ကြားပေးမည်ဖြစ်ပါသည်။) |
| ၁၁ | အရင်းကြေကာလ | - ၆ နှစ် |
| ၁၂ | အရင်းအနှီးပေါ်အကျိုးအမြတ်ပြန်ပေါ်နှုန်း (IRR) | - ၁၆.၀၄ % |
| ၁၃ | နိုင်ငံတော်မှ ရရှိမည့်အကျိုးအမြတ်(၆ နှစ်မြောက်)<br>ဝင်ငွေခွန်<br>ကုန်သွယ်လုပ်ငန်းခွန် | <br><br>- ကျပ် ၈,၆၈၉.၀၃ သန်း (၁ US$= ၁,၂၅၀ ကျပ်)<br>- ကျပ် ၉,၉၆၇.၆၂ သန်း |
| ၁၄ | နှစ်စဉ်လျှပ်စစ်ဓာတ်အားလိုအပ်ချက် | - ၃၀၀,၀၀၀ ကီလိုဝပ် |
| ၁၅ | ငွေကြေးအထောက်အထား | -ငွေကြေးအထောက်အထားအဖြစ် ၃-၁-၂၀၁၇ ရက်စွဲဖြင့် မြင့်မြတ်ကျော်စက်မှုလက်မှုကုမ္ပဏီလီမိတက်၏စတီးနှင့်အိပ်(ချ်) ဘင်းမ်များကိုအသုံးပြု၍ ထုတ်လုပ်ထား သော(Steel Structure) ဆောက်လုပ်ရေးလုပ်ငန်းသုံးပစ္စည်းစက်ရုံလုပ်ကိုင် ရန်အတွက် လိုအပ်သောငွေကြေး ကျပ်(၃၀,၀၀၀,၀၀၀,၀၀၀) အား မြန်မာအရှေ့တိုင်းဘဏ်မှ အတိုးနှုန်း ၁၃% ဖြင့် ကူညီဆောင်ရွက် ပေးမည်ဖြစ်ကြောင်း ချေးငွေပြန်ဆပ်မည့်အစီအစဉ်အားတင်ပြထားပြီး ကျန်ငွေကျပ် (၁၉,၉၅၀,၀၀၀,၀၀၀)ကို ကုမ္ပဏီရင်းနှီး ငွေများမှသုံးစွဲသွားမည် ဖြစ်ကြောင်း၊ ကမ္ဘောဇဘဏ်၊ ကျောက်တံ တားဘဏ် ခွဲတွင် ၂၁-၁၂-၂၀၁၆ ရက်စွဲဖြင့် အမေရိကန်ဒေါ်လာ ၃,၃၁၅,၇၀၁ ရှိကြောင်း နှင့် ရိုးမဘဏ်(Strand Branch) ၌ မြင့်မြတ်ကျော် စက်မှု လက်မှု ကုမ္ပဏီလီမိတက် အမည်ဖြင့် ဘဏ်စာရင်းကို ဖွင့်လှစ်ထားကြောင်း အထောက်အထားများကိုလည်း တင်ပြထားပါသည်။ |
| ၁၆ | CSR | - Corporate Social Responsibility (CSR) အဖြစ် နှစ်စဉ်ရရှိသောအမြတ်ငွေမှ ၂% ကို သုံးစွဲမည်ဖြစ်ကြောင်း တင်ပြထားပါသည်။ ဝန်ထမ်းသက်သာချောင်ချိရေးအစီအစဉ်၊ ပတ်ဝန်းကျင်ညစ်ညမ်းမှု မရှိစေရန် ဆောင်ရွက်ထားမှုအခြေအနေ၊ လုပ်ငန်းခွင်သာယာရေးနှင့် လုပ်သားများသက်သာချောင်ချိရေးအစီအစဉ်၊ မီးဘေးလုံခြုံရေး စီမံချက်နှင့် တစ်နှစ်လစာဝင်ငွေကျပ် ၄,၈၀၀,၀၀၀ အထက်ရရှိသော ဝန်ထမ်းများအတွက်ဝင်ငွေခွန်ပေးဆောင်မည်ဖြစ်ကြောင်း တင်ပြထားပါသည်။ |

| | | |
|---|---|---|
| ၁၇ | အခြား | - လုပ်ငန်းဆောင်ရွက်မည့် မြေနှင့်စပ်လျဉ်း၍ ၂၈-၅-၂၀၀၄ ရက်စွဲဖြင့် အုတ်ဖုတ်မြေအဖြစ် ရန်ကုန်တိုင်းစစ်ဌာနချုပ်မှ ဦးမောင်မောင်အုန်း အမည်ပြောင်းလဲသည့် စာ(မိတ္တူ)၊ ၂၁-၁၀-၁၉၉၆ ရက်စွဲပါအမှုတွဲအမှတ် ၂၈/လန(ရွှေပြည်သာ)/၉၆ ရန်ကုန်တိုင်းငြိမ်ဝပ်ပိပြားမှုတည်ဆောက်ရေးအဖွဲ့ လန၃၉ (မိတ္တူ) ဦးမောင်မောင်အုန်း ပိုင်ဆိုင်သော မြေအထောက်အထားနှင့်နိုင်ငံသားစိစစ်ရေးကဒ် မိတ္တူများအား တင်ပြထားပါသည်။<br>- မြင့်မြတ်ကျော်စက်မှုလက်မှု ကုမ္ပဏီလီမိတက် အမည်ဖြင့် ၂၀၁၃ ခုနှစ် နိုဝင်ဘာလ ၁၉ ရက်နေ့တွင်ခွင့်ပြုမိန့်အမှတ် မနသ-၉၄၅/၂၀၁၃ ဖြင့် တည်ဆောက်အရေး လုပ်ငန်းသုံးကော်လံ၊ ယက်မ၊ ဒိုင်း၊ မျှားတန်း၊ ကြမ်းခင်း စသောဆောက်လုပ်ရေး သံထည်ပစ္စည်းများ (Steel Structure) နှင့်ခေတ်မီသော အမိုးပြားမျိုးစုံ ထုတ်လုပ်ခြင်း လုပ်ငန်းအား ရန်ကုန်တိုင်းဒေသကြီး၊ ဒဂုံဆိပ်ကမ်းမြို့နယ်၊ စက်မှုဇုန်-၂၊ မြေကွက်အမှတ်-၈၀ ခွင့်ပြုမိန့် (မိတ္တူ) ရရှိထားသည့် အထောက်အထားနှင့် ၁၇-၁၁-၂၀၁၆ ရက်စွဲဖြင့် ၂၀၁၆-၁၇ စည်းကြပ်နှစ်အတွက် ဝင်ငွေခွန် ထမ်းဆောင် ပြီးကြောင်း အထောက်ထား (မိတ္တူ) များကိုလည်း တင်ပြ ထားပါသည်။<br>- စက်ပစ္စည်းနှင့် ကုန်ကြမ်းအား တရုတ်ပြည်သူ့သမ္မတနိုင်ငံနှင့် ထိုင်ဝမ်မှ တင်သွင်းမည်ဖြစ်ကြောင်း နှင့် လုပ်ငန်းဆိုင်ရာ နည်းပညာများ ရယူမည်ဖြစ်ကြောင်းတင်ပြထားပါသည်။<br>- Production Process ကိုလည်းတင်ပြထားပါသည်။ |

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

စာအမှတ်၊မရက-၃/မ-၁၄၄၉/၂၀၁၇( ၄၉၈ )

ရက်စွဲ၊ ၂၀၁၇ ခုနှစ် မေလ ၁၅ ရက်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့**

**တင်ပြမည့်အမှာစာ**

အကြောင်းအရာ။ **မြင့်မြတ်ကျော် စက်မှုလက်မှုကုမ္ပဏီလီမိတက် (Myint Myat Kyaww Industry Company Limited) မှ စတီးနှင့်အိပ်(ချ်)ဘင်းမ်များကိုအသုံးပြု ထုတ်လုပ်ထားသော ဆောက်လုပ်ရေးလုပ်ငန်းသုံးပစ္စည်းများ ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းအား မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြ လာခြင်းကိစ္စ**

၁။ မြင့်မြတ်ကျော် စက်မှုလက်မှုကုမ္ပဏီလီမိတက် (Myint Myat Kyaww Industry Company Limited) သည် ရန်ကုန်တိုင်းဒေသကြီး၊ ရွှေပြည်သာမြို့နယ်၊ လှော်ကားကျေးရွာအုပ်စု၊ ဦးပိုင်အမှတ်-(၁၀+၁၁+၁၃+၁၄)၊ အမှတ်(၅၆၀)ရှိ စုစုပေါင်း ၉.၃၄ ဧကအနက်မှ မြေဧရိယာ ၅ ဧက (၂၀,၂၃၄.၃ စတုရန်းမီတာ)တွင် စတီးနှင့်အိပ်(ချ်)ဘင်းမ်များကိုအသုံးပြု ထုတ်လုပ်ထားသော ဆောက်လုပ်ရေးလုပ်ငန်းသုံးပစ္စည်းများ ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းအား မြန်မာနိုင်ငံသားများရင်းနှီး မြှုပ်နှံမှုဥပဒေနှင့် အညီဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဦးမောင်မောင်အုန်း (အဘ-ဦးထိုက်ကျော်) မှ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြု တင်ပြလာပါသည်။

၂။ အဆိုပြုချက်နှင့်အတူမြင့်မြတ်ကျော် စက်မှုလက်မှုကုမ္ပဏီလီမိတက် (Myint Myat Kyaww Industry Company Limited) ၏ ၂၀၁၃ ခုနှစ် နိုဝင်ဘာလ ၁၉ ရက်နေ့တွင် ခွင့်ပြုမိန့်အမှတ် မနသ-၉၄၅/၂၀၁၃ ဖြင့် ရန်ကုန်တိုင်းဒေသကြီး၊ ဒဂုံဆိပ်ကမ်းမြို့နယ်၊ စက်မှုဇုန်-၂၊ မြေကွက်အမှတ်-၈၀ ခွင့်ပြုမိန့် (မိတ္တူ) ရရှိထားသည့် အထောက်အထား၊၁၇-၁၁-၂၀၁၆ ရက်စွဲ ဖြင့် ၂၀၁၆-၁၇ စည်းကြပ်နှစ်အတွက် ဝင်ငွေခွန်ထမ်းဆောင်ပြီးကြောင်း ၊ ကုမ္ပဏီမှတ်ပုံတင်လက်မှတ် အမှတ်- ၅၅၁/၂၀၀၉-၂၀၁၀၊ သင်းဖွဲ့မှတ်တမ်းနှင့် သင်းဖွဲ့စည်းမျဉ်း ၊ ဒါရိုက်တာ စာရင်းနှင့် ၂၇-၉-၂၀၁၃ ရက်စွဲဖြင့် ၅ နှစ် သက်တမ်းတိုးထားကြောင်း အထောက်အထား (မိတ္တူ)များအား တင်ပြထားပါသည်။

၃။ မြေနှင့်အဆောက်အဦငှားရမ်းသက်တမ်းမှာ ကနဦး ၁၅ နှစ်နှင့် ၅ နှစ် ၂ ကြိမ် သက်တမ်းတိုး ဖြစ်ပါသည်။ နှစ်စဉ်မြေနှင့်အဆောက်အဦ ငှားရမ်းခမှာ ၅ ဧက (၂၀,၂၃၄.၃ စတုရန်းမီတာ) အတွက် ကျပ် ၉၆,၀၀၀,၀၀၀ ဖြစ်ပြီး တစ်နှစ် တစ်စတုရန်းမီတာလျှင် ကျပ် ၄၇၄၄ နှုန်းဖြစ် ပါသည်။

၄။ တည်ဆောက်ရေးကာလမှာ ၂၄ လ ကြာမြင့်မည်ဖြစ်ကြောင်းတင်ပြထားပါသည်။

၅။ လုပ်ငန်း၏ စုစုပေါင်းမတည်ငွေရင်း ပမာဏမှာ ကျပ် ၄၉,၉၅၀ သန်း ရှိပြီး ၎င်းတွင်အမေရိကန်ဒေါ်လာ ၂၅.၄၃ သန်း အပါအဝင်ဖြစ်ပါသည်။ အဆိုပြုလုပ်ငန်းအတွက် ငွေသားကျပ် ၃၀,၀၀၀ သန်းအား

မြန်မာအရှေ့တိုင်းဘဏ်လီမိတက်မှ အတိုးနှုန်း ၁၃% ဖြင့် ချေးငွေရယူ သွားမည်ဖြစ်ကြောင်းနှင့် ချေးငွေပြန်ဆပ်မည့် အစီအစဉ်အားတင်ပြထားပါသည်။ အဆိုပြုလုပ်ငန်းမှ ထည့်ဝင်မှုများမှာ အောက်ပါ အတိုင်းဖြစ်ပါသည်-

| | ကျပ် (သန်း) | US$ (သန်း) | စုစုပေါင်း (ကျပ်/သန်း) |
|---|---|---|---|
| ငွေသား | ၁၈,၀၅၀.၂၅ | - | ၁၈,၀၅၀.၂၅ |
| စက်ပစ္စည်းတန်ဖိုး(ပြည်ပ) | - | ၄.၃၁ | ၅,၃၈၀.၂၅ |
| မြေနှင့်အဆောက်အဦငှားရမ်းခ | ၉၆.၀၀ | - | ၉၆.၀၀ |
| ပရိဘောဂနှင့်လုပ်ငန်းသုံးပစ္စည်းတန်ဖိုး | ၁၆.၂၅ | - | ၁၆.၂၅ |
| ကုန်ကြမ်းပစ္စည်း(ပြည်ပ) | | ၂၁.၁၂ | ၂၆,၄၀၆.၂၅ |
| **စုစုပေါင်း** | **၁၈,၁၆၂.၅၀** | **၂၅.၄၃** | **၄၉,၉၅၀.၀၀** |

၆။ လုပ်ငန်းဆောင်ရွက်ရန်အတွက် ပထမနှစ်တွင် ပြည်တွင်းမှ စုစုပေါင်းဝန်ထမ်း ၂၄၇ ဦးခန့်ထားမည်ဖြစ်ပါသည်။ ပြည်ပဝန်ထမ်း ၃ ဦးခန့်ထားမည်ဖြစ်ပြီး လစာပေးရန်မလိုပဲ အချိန်ပိုင်းလာရောက်လေ့ကျင့်သင်ကြားပေးမည်ဖြစ်ပါသည်။ ပြည်တွင်းမှ ဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ ကျပ် ၁၅၀,၀၀၀၊ အမြင့်ဆုံး ဝန်ထမ်းတစ်ဦးလစာမှာ ကျပ် ၈၀၀,၀၀၀ ဖြစ်ပါသည်။

၇။ လုပ်ငန်းမှထွက်ရှိသော ပစ္စည်းများကို ပြည်တွင်း၌ ၁၀၀% ရောင်းချမည်ဖြစ်ပါသည်။ ပုံမှန်နှစ် (ဖြနှစ်မြောက်) တွင် ထုတ်လုပ်မှုနှင့်ရောင်းဈေးနှုန်းမှာအောက်ပါအတိုင်းဖြစ်ပါသည်-

| အမျိုးအစား | ရေတွက်ပုံ | ထုတ်လုပ်မှုအရေအတွက် | ရောင်းဈေးနှုန်း (ကျပ်/Unit) |
|---|---|---|---|
| H-Beam Column/Rafter | MT | ၄၂,၀၀၀ | ၇၂၀ |
| Steel Column/Rafter | MT | ၄၅,၀၀၀ | ၇၈၂ |
| Roofing Sheet | MT | ၄၅,၀၀၀ | ၁,၁၇၀ |
| Opp Insulator | Roll | ၁၅,၀၀၀ | ၂၈၀ |
| C-Channels | MT | ၂၃,၀၀၀ | ၉၀၀ |
| Decking Sheet | MT | ၂၂,၀၀၀ | ၉၀၀ |
| Bolts & Nuts | MT | ၁၈၉၀ | ၁,၂၅၀ |
| Screws | MT | ၁၈၅၀ | ၁,၂၅၀ |

၈။ လုပ်ငန်းဆောင်ရွက်ခြင်းဖြင့် ပုံမှန်နှစ် (ဖြနှစ်မြောက်) တွင် ရရှိမည့် ကုမ္ပဏီဝင်ငွေနှင့် အသုံးစရိတ်ခန့်မှန်းခြေမှာ တစ်ဖက်ပါအတိုင်းဖြစ်ပါသည်-

ကျပ်(သန်း)

| | | |
|---|---|---|
| (က) | ဝင်ငွေ | ၂၀၉,၃၂၀.၀၀ |
| (ခ) | အသုံးစရိတ် | ၁၈၃,၂၅၂.၉၁ |
| (ဂ) | အသားတင်အမြတ် | ၂၆,၀၆၇.၀၉ |

၉။ ဤလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်မှ ပုံမှန်နှစ် (၆နှစ်မြောက်) တွင် ရရှိမည့် အကျိုးမြတ်ခန့်မှန်းခြေမှာဝင်ငွေခွန် ကျပ် ၈,၆၈၉.၀၃ သန်းနှင့် ကုန်သွယ်လုပ်ငန်းခွန် ကျပ် ၉,၉၆၇.၆၂ သန်းဖြစ်ပါသည်။ လုပ်ငန်း၏ အရင်းကြေကာလမှာ ၆ နှစ် ဖြစ်ပြီး အရင်းအနှီးအပေါ် အကျိုးအမြတ် ပြန်ပေါ်နှုန်းမှာ IRR မှာ ၁၆.၀၄ % ဖြစ်ပါသည်။ အမေရိကန်ဒေါ်လာ တစ်ဒေါ်လာလျှင် ၁,၂၅၀ ကျပ်ဖြင့် တွက်ချက်ဖော်ပြထားပါသည်။

၁၀။ အဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ သက်ဆိုင်ရာဌာနများမှ အောက်ပါအတိုင်း သဘောထားမှတ်ချက် ပြန်ကြားထားပါသည်-

(က) **ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့** မှ (၂၀-၄-၂၀၁၇) ရက်နေ့တွင်ကျင်းပပြုလုပ်သော ရန်ကုန်တိုင်းဒေသကြီး အစိုးရအစည်းအဝေးအမှတ်စဉ်(၁၅/၂၀၁၇)၊ ဆုံးဖြတ်ချက်အပိုဒ် (၁၇)အရ ကန့်ကွက်ရန်မရှိကြောင်း သဘောထားမှတ်ချက်ပြန်ကြားထားပါသည်။

**နောက်ဆက်တွဲ(က)**

(ခ) **သယံဇာတနှင့် သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေးဝန်ကြီးဌာန** မှ အဆိုပြု လုပ်ငန်းကြောင့် ပတ်ဝန်းကျင်နှင့်လူမှုရေး ထိခိုက်မှုမရှိစေရေး (သို့မဟုတ်) ထိခိုက်မှု အနည်းဆုံး ဖြစ်စေရေးတို့အတွက် ကနဦးပတ်ဝန်းကျင် ဆန်းစစ်ခြင်း (Initial Environmental Examination-IEE) ကို ဆောင်ရွက်ပြီး ပတ်ဝန်းကျင် ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းပါ အချက်အလက်များပါအတိုင်း အစီရင်ခံစာ ရေးသားတင်ပြရန် နှင့် အထက်ပါလေ့လာဆန်းစစ်မှု ရလဒ်များကို အခြေခံ၍ ပတ်ဝန်း ကျင်နှင့်လူမှုရေး ထိခိုက်မှုမဖြစ်ပေါ်စေရေး (သို့မဟုတ်) ထိခိုက်မှု အနည်းဆုံးဖြစ် စေသည့် လုပ်ငန်းဆောင်ရွက်မည့် အစီအစဉ် စွန့်ပစ်ပစ္စည်း/စွန့်ပစ်အရည် စီမံခန့်ခွဲမှု အစီအစဉ်၊ စောင့်ကြပ်ကြည့်ရှုစစ်ဆေးမည့် အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှု လျော့ပါး စေရေးဆောင်ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲမည့်ရန်ပုံငွေ စသည်တို့ပါဝင်သည့် ပတ်ဝန်းကျင်စီမံခန့်ခွဲမှု အစီအစဉ် (Environmental Management Plan -EMP) အား ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းပါ အချက်အလက်များနှင့် အညီအစီရင်ခံစာ ရေးသားတင်ပြရန် သဘောထားပြန်ကြားထားပါသည်။ **ကုမ္ပဏီမှ သဘောထား မှတ်ချက်နှင့်အညီ လိုက်နာဆောင်ရွက်မည်ဖြစ်ကြောင်း တင်ပြထားပါသည်။**

**နောက်ဆက်တွဲ(ခ)**

(ဂ) **စက်မှုဝန်ကြီးဌာန** မှ အဆိုပြုလုပ်ငန်းအပေါ် ကန့်ကွက်ရန်မရှိကြောင်း သဘောထားပြန် ကြားထားပါသည်။ **နောက်ဆက်တွဲ(ဂ)**

၁၁။ ငွေကြေးအထောက်အထားအဖြစ် ကမ္ဘောဇဘဏ်၊ ကျောက်တံတားဘဏ်ခွဲတွင် ၂၁-၁၂-၂၀၁၆ ရက်စွဲဖြင့် အမေရိကန်ဒေါ်လာ ၃,၃၁၅,၇၀၁ ရှိကြောင်းနှင့် ရိုးမဘဏ်(Strand Branch) ၌ မြင့်မြတ်ကျော်စက်မှုလက်မှုကုမ္ပဏီလီမိတက် အမည်ဖြင့် ဘဏ်စာရင်းကိုဖွင့်လှစ်ထားကြောင်း အထောက်အထားများကိုလည်း တင်ပြ ထားပါသည်။

၁၂။ **မီးဘေးကာကွယ်ရေးစီမံချက်နှင့်** ပတ်သက်၍ မီးဘေးအန္တရာယ် ကြိုတင်ကာကွယ်ရေးလုပ်ငန်းအစီအမံများ တင်ပြထားပါသည်။

၁၃။ ယင်းလုပ်ငန်းသည် မြန်မာနိုင်ငံသားများသာလျှင် ပိုင်ဆိုင်ပြီး နိုင်ငံခြားမှမည်သူမျှပိုင်ဆိုင်မှုမရှိကြောင်း၊ လုပ်ငန်းအသစ်ဖြစ်ကြောင်း၊ ပတ်ဝန်းကျင်လေထု၊ ရေထုနှင့်မြေထုတို့ ညစ်ညမ်းမှု မဖြစ်ပွားစေရန်အတွက် လိုအပ်သောအစီအမံများ၊ မီးဘေးကြိုတင်ကာကွယ်မှုများ ဆောင်ရွက်မည်ဖြစ်ပါကြောင်း၊ ဝန်ထမ်း၏လစာနှင့် ပတ်သက်၍ နိုင်ငံတော်မှချမှတ်ထားသော လစာဝင်ငွေခွန် ဥပဒေအတိုင်း ဝင်ငွေခွန်ပေးသွင်းမည် ဖြစ်ကြောင်း ဝန်ခံကတိပြုထားပါသည်။

၁၄။ ဝန်ထမ်းသက်သာ ချောင်ချိရေးနှင့် လုပ်ငန်းခွင်သာယာရေးအတွက် ဝန်ထမ်းများအား ဝန်ထမ်းအိမ်ယာများကို လိုအပ်သလို တည်ဆောက်ပေးမည် ဖြစ်ကြောင်းဖြစ်ကြောင်း၊ သန့်စင်ခန်းများ လုံလောက်စွာထားရှိပေးမည်ဖြစ်ကြောင်း၊ ဝန်ထမ်းများ၏ကျန်းမာရေးအတွက်ကျန်းမာရေးဝန်ထမ်းများ ထားရှိသွားမည်ဖြစ်ပြီး အရေးပေါ်ဆေးကုသရေးနှင့် လိုအပ်သောဆေးဝါးများ ထားရှိပေးသွားမည်ဖြစ်ကြောင်း၊ စက်ရုံအတွင်းအပြင် သန့်ရှင်းရေးအား အချိန်ပြည့် ဆောင်ရွက်ထားရှိမည် ဖြစ်ကြောင်း ကုမ္ပဏီမှ တင်ပြထားပါသည်။

၁၅။ လုပ်ငန်းဆောင်ရွက်ရာတွင် လျှပ်စစ်ဓါတ်အားကို ကိုယ်ပိုင်ထရန်စဖော်မာ 1000 KVA နှင့် ကိုယ်ပိုင်မီးစက် Generator 500 KVA/300KVA ကို သုံးစွဲသွားမည်ဖြစ်ကြောင်း ကုမ္ပဏီမှ တင်ပြထားပါသည်။

၁၆။ ကုမ္ပဏီမှ နှစ်စဉ် အသားတင်အမြတ်၏ ၂% ကို လူမှုအကျိုးပြုလုပ်ငန်း (Corporate Social Responsibility -CSR) အတွက် အသုံးပြုမည်ဖြစ်ပါကြောင်း တင်ပြထားပါသည်။

၁၇။ အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ၂၀၁၇ ခုနှစ် ဇန်နဝါရီလ ၁၀ ရက်နေ့တွင် ကျင်းပသော (၂/၂၀၁၇) ကြိမ်မြောက်အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။

**စိစစ်တင်ပြချက်**

၁၈။ အောက်ပါအတိုင်းစိစစ်တင်ပြအပ်ပါသည်-

(က) ကနဦး Test Run ကာလအတွက် တင်သွင်းမည့် ကုန်ကြမ်းပစ္စည်း အမေရိကန်ဒေါ်လာ ၂၁.၂၁၅ သန်းအပေါ် ကျသင့်သည့်အခွန် ပေးဆောင်၍ တင်သွင်းမည်ဖြစ်ကြောင်း တင်ပြထားပါသည်။

(ခ) အဆိုပြုလုပ်ငန်းမှထွက်ရှိလာသော ကုန်ချောပစ္စည်းများကို စက်ရုံကျွမ်းကျင်ပညာရှင်များမှ စစ်ဆေးမှုများပြုလုပ်၍ MMK အမှတ်တံဆိပ်ဖြင့် ရောင်းချသွားမည်ဖြစ်ကြောင်း တင်ပြထားပါသည်။

(ဂ) ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန၊ မူဝါဒနှင့်ဥပဒေရေးရာဌာနခွဲမှ ကော်မရှင်ခွင့်ပြုမိန့်နှင့်ဆုံးဖြတ်ချက်(မူကြမ်း)အားဥပဒေနှင့်ညီညွတ်မှုရှိကြောင်း စိစစ်ပြီးဖြစ်ပါသည်။

(ဃ) အဆိုပြုလုပ်ငန်းများသည်ကော်မရှင်၏ အမိန့်ကြော်ငြာစာအမှတ် ၁၂၃/၂၀၁၆ (၁၆-၁၁-၂၀၁၆) အရ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရအဆိုပြုလုပ်ငန်းဆောင်ရွက်ခွင့်ကို ၁၄-၁၂-၂၀၁၆ ရက်စွဲဖြင့် တင်ပြခဲ့ပြီး ၎င်းဥပဒေအရ အခွန်ကင်းလွတ်ခွင့်နှင့် သက်သာခွင့်ခံစားခွင့်ပြုရန် တင်ပြထား ပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၉။ မြင့်မြတ်ကျော်စက်မှုလက်မှုကုမ္ပဏီလီမိတက် (Myint Myat Kyaww Industry Company Limited)သည် ရန်ကုန်တိုင်းဒေသကြီး၊ ရွှေပြည်သာမြို့နယ်၊ လှော်ကားကျေးရွာ အုပ်စု၊ဦးပိုင်အမှတ်-(၁၀+၁၁+၁၃+၁၄)၊ အမှတ်(၅၆၁)ရှိစုစုပေါင်း ၉.၃၄ ဧကအနက်မှ မြေဧရိယာ ၅ ဧက (၂၀,၂၃၄.၃ စတုရန်းမီတာ)တွင် စတီးနှင့်အိပ်(ချ်)ဘင်းမ်များကို အသုံးပြုထုတ်လုပ်ထားသော ဆောက်လုပ်ရေးလုပ်ငန်းသုံးပစ္စည်းများ ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)
(မြသူဇာ၊ တွဲဖက်အတွင်းရေးမှူး)

မိတ္တူကို
ရုံးလက်ခံ

တိုင်းဒေသကြီးအစိုးရအဖွဲ့
စာအမှတ် ၁၃၀၁
ရက်စွဲ ၂၄.၄.၁၇
ရန်ကုန်တိုင်းဒေသကြီး

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# တိုင်းဒေသကြီးအစိုးရအဖွဲ့
# ရန်ကုန်တိုင်းဒေသကြီး

စာအမှတ်၊ ၃ / ၆ - ၃ (၇) / တိုင်းရင်းသား

ရက်စွဲ၊ ၂၀၁၇ ခုနှစ်၊ ဧပြီ လ ၂၁ ရက်

သို့

M-595
26/4

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံလာခြင်းကိစ္စ**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁.၂.၂၀၁၇ ရက်စွဲပါစာအမှတ်၊ မရက-၃/ မ-၁၄၄၉/၂၀၁၇(၁၇၈)

၁။ မြင့်မြတ်ကျော် စက်မှုလက်မှုကုမ္ပဏီလီမိတက် (Myint Myat Kyaw Industry Company Limited)သည် ရန်ကုန်တိုင်းဒေသကြီး၊ ရွှေပြည်သာမြို့နယ်၊ လှော်ကားကျေးရွာအုပ်စု၊ ဦးပိုင်အမှတ် (၁၀+၁၁+၁၃+၁၄)၊ အမှတ်(၅၆၁)ရှိ စုစုပေါင်း ၉.၃၄ ဧကအနက်မှ မြေဧရိယာ ၅ ဧက (၂၀,၂၃၄.၃ စတုရန်းမီတာ)တွင် စတီးနှင့် အိပ်(ချ်)ဘင်းမ်များကိုအသုံးပြု၍ အသင့်ဖန်တီးထုတ်လုပ်ထားသော ဆောက်လုပ်ရေးလုပ်ငန်းသုံးပစ္စည်းများ ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းအား မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာမှုအပေါ် သဘောထားမှတ်ချက် ပြန်ကြားပေးနိုင်ပါရန် ရည်ညွှန်းပါစာဖြင့် ညှိနှိုင်း မေတ္တာရပ်ခံလာပါသည်။

၂။ အဆိုပါကိစ္စနှင့်စပ်လျဉ်း၍ ၂၀.၄.၂၀၁၇ ရက်နေ့တွင် ကျင်းပပြုလုပ်သော ရန်ကုန်တိုင်းဒေသကြီး အစိုးရအဖွဲ့အစည်းအဝေးအမှတ်စဉ် (၁၅/၂၀၁၇)၊ ဆုံးဖြတ်ချက်အပိုဒ် (၁၇)အရ ကန့်ကွက်ရန်မရှိပါကြောင်း သဘောထားပြန်ကြားအပ်ပါသည်။

ဝန်ကြီးချုပ် (ကိုယ်စား)

( နော်ပန်းသဉ္ဇာမျိုး၊ ကရင်တိုင်းရင်းသားလူမျိုးရေးရာဝန်ကြီး )

**မိတ္တူကို**

ရန်ကုန်တိုင်းဒေသကြီးကရင်တိုင်းရင်းသားလူမျိုးရေးရာဝန်ကြီး

ရန်ကုန်မြောက်ပိုင်းခရိုင်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန

ရွှေပြည်သာမြို့နယ်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန

မြင့်မြတ်ကျော် စက်မှုလက်မှုကုမ္ပဏီလီမိတက်

လက်ခံစာတွဲ/မျှောစာတွဲ

D/2017/Cabinet/14.,(2)

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
**စက်မှုဝန်ကြီးဌာန**

စာအမှတ်၊ ၁၃-စမ(၂)၂၀၁၆-၂၀၁၇(၃၀၀၈)
ရက်စွဲ၊ ၂၀၁၇ ခုနှစ်၊ ဖေဖော်ဝါရီလ၂၃ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **သဘောထားမှတ်ချက် ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁.၂.၂၀၁၇ ရက်စွဲပါ စာအမှတ်၊ မရက-၃/ မ-၁၄၄၉/ ၂၀၁၇(၁၇၉)

၁။ မြင့်မြတ်ကျော်စက်မှုလက်မှုကုမ္ပဏီလီမိတက်မှ ရန်ကုန်တိုင်းဒေသကြီး၊ ရွှေပြည်သာမြို့နယ်၊ လှော်ကားကျေးရွာအုပ်စု၊ ဦးပိုင်အမှတ်(၁၀+၁၁+၁၃+၁၄)၊ အမှတ်(၅၆၁)တွင် စတီးနှင့် အိပ် (ချ်)ဘင်းမ်များကို အသုံးပြု၍ အသင့်ဖန်တီးထုတ်လုပ်ထားသော ဆောက်လုပ်ရေးလုပ်ငန်းသုံးပစ္စည်းများ ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းအပေါ် သဘောထားမှတ်ချက်ပြန်ကြားပေးပါရန် ရည်ညွှန်းချက်ပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပါကုမ္ပဏီမှ ဆောင်ရွက်မည့်လုပ်ငန်းများနှင့်ပတ်သက်၍ အောက်ပါအတိုင်း စိစစ်တွေ့ရှိရပါသည်-

(က) လျှပ်စစ်သွယ်တန်းအသုံးပြုမှုကို လျှပ်စစ်ဥပဒေနှင့်အညီ အသုံးမပြုမီ စစ်ဆေးဆောင်ရွက်ရန်လိုအပ်ပါသည်။

(ခ) မီးဘေးအန္တရာယ်ကင်းဝေးစေရေးနှင့် ပတ်ဝန်းကျင်ညစ်ညမ်းမှုမဖြစ်ပေါ်စေရေးတို့အတွက် သက်ဆိုင်ရာဌာနများ၏ စိစစ်ချက်ဖြင့် စနစ်တကျ ဆောင်ရွက်ရန်နှင့် ၎င်းအစီအမံအတွက် အသားတင်အမြတ်ငွေ၏ ၁ % သုံးစွဲရန် လိုအပ်ပါသည်။

(ဂ) ပုဂ္ဂလိကစက်မှုလုပ်ငန်းဥပဒေနှင့်အညီ စက်မှုမှတ်ပုံတင် လျှောက်ထားဆောင်ရွက်ရန် လိုအပ်ပါသည်။

(ဃ) Value Added တန်ဖိုးမြှင့်ကုန်ထုတ်လုပ်ငန်းလုပ်ကိုင်ခြင်းနှင့် အလုပ်အကိုင်အခွင့်အလမ်းများ ပိုမိုရရှိလာနိုင်ပါသည်။

(င) အသုံးပြုမည့် ကုန်ကြမ်းပစ္စည်းများ၊ စက်ပစ္စည်းများနှင့် ထုတ်လုပ်မှုနည်းစဉ်များအရ ကုန်ချော(၆)မျိုးထုတ်လုပ်ခြင်းမှာ ဆီလျော်မှုရှိပါသည်။

(စ) ပတ်ဝန်းကျင်ဆူညံခြင်း၊ ပတ်ဝန်းကျင်ညစ်ညမ်းခြင်းများမဖြစ်ပေါ်နိုင်သော်လည်း Cutting Waste များအား စနစ်တကျသိမ်းဆည်းရှင်းလင်းဆောင်ရွက်ရန်နှင့် ထုတ်လုပ်ရေးဝန်ထမ်းအားလုံး သားရေလက်အိတ်ရှည်များ၊ Safety Shoe များ မဖြစ်မနေ အသုံးပြုရန် လိုအပ်ပါသည်။

၃။ သို့ပါ၍ မြင့်မြတ်ကျော်စက်မှုလက်မှုကုမ္ပဏီလီမိတက်မှ စတီးနှင့် အိပ် (ချ်)ဘင်းမ်များကို အသုံးပြု၍ အသင့်ဖန်တီးထုတ်လုပ်ထားသော ဆောက်လုပ်ရေးလုပ်ငန်း သုံးပစ္စည်းများ ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းနှင့်စပ်လျဉ်း၍ အထက်ဖော်ပြပါလိုအပ်ချက်များအား ဖြည့်ဆည်းဆောင်ရွက်သွားမည်ဆိုပါက ဤဝန်ကြီးဌာနအနေဖြင့် **ကန့်ကွက်ရန်မရှိပါကြောင်း** ပြန်ကြားအပ်ပါသည်။

၂၃.၂.၂၀၁၇

ပြည်ထောင်စုဝန်ကြီး ( ကိုယ်စား )

( သန်းသန်းလွင်၊ ဒုတိယအမြဲတမ်းအတွင်းဝန် )

မိတ္တူကို

- စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေးဦးစီးဌာန
- အမှတ်(၁)အကြီးစားစက်မှုလုပ်ငန်း
- ရုံးလက်ခံ

ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့
ရန်ကုန်မြို့
စာအမှတ်၊၀၀၁/ MIC(OSS) /၀၁( ၆၈၁၇ )
ရက် စွဲ ၊ ၂၀၁၇ ခုနှစ် ဖေဖော်ဝါရီလ ၈ ရက်

M-213
၆.၂.၁၇

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **Myint Myat Kyaw Industry Company Limited မှ စတီးနှင့်အိပ်(ချ်) ဘင်းမ်များကိုအသုံးပြု၍ အသင့်ဖန်တီးထုတ်လုပ်ထားသော ဆောက်လုပ်ရေးလုပ်ငန်းသုံးပစ္စည်းများ ထုတ်လုပ်ရောင်းချခြင်း လုပ်ငန်းကိုဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စနှင့်စပ်လျဉ်း၍ သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏၁-၂-၂၀၁၇ ရက်စွဲပါစာအမှတ်၊ မရက-၃/ မ-၁၄၄၉/ ၂၀၁၇(၁၈၀)

၁။ မြင့်မြတ်ကျော် စက်မှုလက်မှုကုမ္ပဏီလီမိတက် (Myint Myat Kyaw Industry Company Limited) သည် ရန်ကုန်တိုင်းဒေသကြီး၊ ရွှေပြည်သာမြို့နယ်၊ လှော်ကားကျေးရွာအုပ်စု၊ ဦးပိုင်အမှတ်- (၁၀+၁၁+၁၃+၁၄)၊ အမှတ်- ၅၆၁ ရှိ စုစုပေါင်း ၉.၃၄ ဧက အနက်မှ မြေဧရိယာ ၅ ဧက (၂၀,၂၃၄.၃ စတုရန်းမီတာ) ပေါ်တွင် စတီးနှင့်အိပ်(ချ်) ဘင်းမ်များကို အသုံးပြု၍ အသင့်ဖန်တီးထုတ်လုပ်ထားသော ဆောက်လုပ်ရေးလုပ်ငန်းသုံးပစ္စည်းများ ထုတ်လုပ်ရောင်းချခြင်း လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စနှင့် စပ်လျဉ်း၍ စိစစ်ပြီး သဘောထားမှတ်ချက် ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့်အကြောင်းကြားလာပါသည်။

၂။ အဆိုပါပေးပို့လာသော ရင်းနှီးမြှုပ်နှံမှုဆိုင်ရာ အဆိုပြုလွှာအား စိစစ်ရာတွင် အောက်ပါအချက်များကို လေ့လာတွေ့ရှိရပါသည် -

(က) ကနဦးရင်းနှီးမြှုပ်နှံမှု ကာလမှာ (၃၀) နှစ်ဖြစ်ပြီး၊ လုပ်ငန်းတည်ဆောက်မည့် ကာလမှာ (၂) နှစ်ခန့် ဖြစ်ကြောင်း၊

(ခ) ကုန်ပစ္စည်းထုတ်လုပ်ရောင်းချမှုအနေဖြင့်ပထမနှစ်တွင်တန်ချိန် (၁) သိန်းကျော်မှ (၁၀) နှစ်အတွင်း တန်ချိန် (၁) သိန်း (၉) သောင်းကျော်အထိ တိုးမြှင့်သွားမည်ဖြစ်ကြောင်း၊

(ဂ) လုပ်ငန်းခွင်သာယာရေးနှင့် သက်သာချောင်ချိရေးစီမံချက်၊ မီးဘေးကြိုတင် ကာကွယ်ရေး စီမံချက်များကိုလည်းထားရှိ ဆောင်ရွက်သွားမည် ဖြစ်ကြောင်း၊

(ဃ) လုပ်ငန်းမှရရှိလာမည့် အသားတင်အမြတ်ငွေ၏ (၂%) ကို လူမှုရေးဆိုင်ရာတာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility-CSR) လုပ်ငန်းများတွင် ထည့်ဝင်အသုံးပြုသွားမည် ဖြစ်ကြောင်း၊

(င) သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် စပ်လျဉ်း၍ ပတ်ဝန်းကျင်ညစ်ညမ်းမှုမရှိစေရန် စက်ရုံအတွင်း သန့်စင်ခန်း၊ ရေချိုးခန်း၊ အမှိုက်ပုံးများ အလုံအလောက်ထားရှိပြီး စက်ရုံပတ်ဝန်းကျင် သန့်ရှင်းရေးနှင့် ရေနုတ်မြောင်းများ ရေစီးရေလာ ကောင်းမွန်အောင်

ဆောင်ရွက်ခြင်း၊ စက်ရုံမှထွက်ရှိသော ရေဆိုး၊ ရေညစ်များကို ပတ်ဝန်းကျင်ညစ်ညမ်းမှု မရှိစေရန် ဆောင်ရွက်သွားမည်ဖြစ်ကြောင်း ဖော်ပြပါရှိပါသည်။

၃။ အဆိုပြုလုပ်ငန်းများဆောင်ရွက်ခြင်းနှင့် စပ်လျဉ်း၍ အောက်ဖော်ပြပါ ပတ်ဝန်းကျင်ဆိုင်ရာ ထိခိုက်မှုများဖြစ်ပေါ်လာနိုင်ကြောင်း လေ့လာသုံးသပ်ရပါသည် -

(က) Myint Myat Kyaw Industry Company Limited မှ စတီးနှင့်အိပ်(ချ်) ဘင်းမ်းများကိုအသုံးပြု၍ အသင့်ဖန်တီး ထုတ်လုပ်ထားသော ဆောက်လုပ်ရေးလုပ်ငန်းသုံး ပစ္စည်းများ ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းမှ သံအောက်ဆိုဒ်၊ ကာဗွန်ဒိုင်အောက်ဆိုဒ် ပါဝင်သည့် ဒြပ်ပေါင်းများ၊ သံသတ္တု အမှုန်အမွှားများ ထွက်ရှိနိုင်ပြီး ပတ်ဝန်းကျင် လေထု၊ ရေထုနှင့် မြေထုညစ်ညမ်းမှုများ ဖြစ်ပေါ်လာနိုင်ခြင်း၊

(ခ) လျှပ်စစ်ဓာတ်အားအပြင် ဒီဇယ် Generator စက်ကြီးများ အသုံးပြု၍ လည်ပတ်ရခြင်းကြောင့် ထွက်ရှိလာမည့် စက်သံများ၊ လုပ်ငန်းအဆင့်တိုင်းတွင် စက်ဖြင့်ခုတ်၊ ဖြတ်၊ ညှပ်ခြင်း၊ ဂဟေဆော်ခြင်းကြောင့် ဖြစ်ပေါ်လာသည် ဆူညံသံများကြောင့် အသံညစ်ညမ်းခြင်း၊

(ဂ) ဆောက်လုပ်ရေး လုပ်ငန်းခွင်မှ ထွက်ရှိလာမည့် ဖုန်မှုန့်များ၊ တုန်ခါမှုများ ၊ ယာဉ်/ ယန္တရားများမှ ထွက်ရှိလာမည့် ဆူညံသံ၊ စက်ဆီ၊ ချောဆီ၊ အခိုးအငွေ့များကြောင့် ပတ်ဝန်းကျင်မြေထု၊ လေထု နှင့် အသံညစ်ညမ်းမှု ဖြစ်ပေါ်နိုင်ခြင်း၊

(ဃ) စွန့်ပစ်ပစ္စည်းများကို စနစ်တကျ စီမံခန့်ခွဲမှုမရှိခြင်းတို့ကြောင့် ပတ်ဝန်းကျင်ညစ်ညမ်းမှုဖြစ်ခြင်းစသည့် ပတ်ဝန်းကျင်ဆိုင်ရာ ထိခိုက်မှုပြဿနာများ ဖြစ်ပေါ်လာနိုင်ခြင်း စသည့် ပတ်ဝန်းကျင်ထိခိုက်မှု ပြဿနာများ ဖြစ်ပေါ်လာနိုင်ပါသည်။

၄။ သို့ဖြစ်ပါ၍ Myint Myat Kyaw Industry Company Limited မှ စတီးနှင့်အိပ်(ချ်) ဘင်းမ်းများကိုအသုံးပြု၍ အသင့်ဖန်တီး ထုတ်လုပ်ထားသော ဆောက်လုပ်ရေးလုပ်ငန်းသုံး ပစ္စည်းများထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းကို ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စနှင့် စပ်လျဉ်း၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဆိုင်ရာ ဆောင်ရွက်ရမည့်လုပ်ငန်းများကို အောက်ပါအတိုင်း သဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည်-

(က) အဆိုပြုလုပ်ငန်းများကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေးထိခိုက်ပျက်စီးမှုများကို လျော့နည်းစေရန်အတွက် လုပ်ငန်းဆိုင်ရာအချက်အလက်များကိုပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် နည်းစနစ်များကိုအသုံးပြုရန်နှင့် အဆိုပြုလွှာတွင် ဖော်ပြထားသည့် လူမှုရေးဆိုင်ရာတာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility-CSR) အတွက် အသားတင်အမြတ်ငွေ၏ (၂%) ကို အသုံးပြုခြင်းအပါအဝင် ဆောင်ရွက်ပေးသွားမည့် ကတိကဝတ်များကို တိတိကျကျလိုက်နာ အကောင်အထည်ဖော် ဆောင်ရွက်ရန်။

(ခ) အဆိုပြုလုပ်ငန်းကြောင့် ပတ်ဝန်းကျင်နှင့်လူမှုရေး ထိခိုက်မှုမရှိစေရေး (သို့မဟုတ်) ထိခိုက်မှု အနည်းဆုံး ဖြစ်စေရေးအတွက် ကနဦးပတ်ဝန်းကျင် ဆန်းစစ်ခြင်း (Initial

Environmental Examination - IEE) ကို ဆောင်ရွက်ပြီးပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းပါ အချက်အလက်များပါအတိုင်း အစီရင်ခံစာ ရေးသားတင်ပြရန်။

(ဂ) အထက်ပါလေ့လာဆန်းစစ်မှုရလဒ်များကိုအခြေခံ၍ ပတ်ဝန်းကျင်နှင့်လူမှုရေးထိခိုက်မှုမဖြစ်ပေါ်စေရေး (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံးဖြစ်စေသည့် လုပ်ငန်းဆောင်ရွက်မည့် အစီအစဉ် စွန့်ပစ်ပစ္စည်း/စွန့်ပစ်အရည် စီမံခန့်ခွဲမှုအစီအစဉ်၊ စောင့်ကြပ်ကြည့်ရှုစစ်ဆေးမည့် အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှု လျော့ပါးစေရေးဆောင်ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲမည့်ရန်ပုံငွေ စသည်တို့ပါဝင်သည့် **ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ်** (Environmental Management Plan - EMP) အား ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းပါ အချက်အလက်များနှင့်အညီ ရေးဆွဲတင်ပြရန်နှင့် စီမံချက်ပါအတိုင်း အကောင်အထည်ဖော် ဆောင်ရွက်ရန်။

(ဃ) စီမံကိန်းဆောင်ရွက်မည့်သူများအနေဖြင့် ကနဦးပတ်ဝန်းကျင်ဆန်းစစ်ခြင်း၊ ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းနှင့် ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီစဉ်များ၊ အစီရင်ခံစာများ ရေးသားပြုစုရာတွင် ပြဋ္ဌာန်း ထုတ်ပြန်ထားပြီးဖြစ်သော ပတ်ဝန်းကျင်ထိန်းသိမ်းရေး ဥပဒေ၊ နည်း ဥပဒေ၊ ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း၊ အမျိုးသားပတ် ဝန်းကျင်ဆိုင်ရာ အရည်အသွေး (ထုတ်လွှတ်မှု) လမ်းညွှန်ချက်များ တွင်ဖော်ပြပါရှိသည့် လိုက်နာ ဆောင်ရွက်ရမည့်အချက်များ၊ လုပ်ထုံးလုပ်နည်းများ၊ လမ်းညွှန်ချက်များနှင့် အညီ လိုက်နာဆောင်ရွက်ရန်၊

(င) သက်ဆိုင်ရာ တိုင်းဒေသကြီးအစိုးရအဖွဲ့၏ ကြီးကြပ်ကွပ်ကဲမှုဖြင့် လုပ်ငန်းဆောင်ရွက်မည့် နေရာဒေသတွင် နေထိုင်သောဒေသခံပြည်သူများ၏ ဆန္ဒနှင့်သဘောထားများကို လည်း ရယူဆောင်ရွက်ရန်။

6/3/17.

(အောင်သူကျော်)
ဒုတိယညွှန်ကြားရေးမှူး
အဖွဲ့ခေါင်းဆောင်
ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့

**မိတ္တူကို**

ပြည်ထောင်စုဝန်ကြီးရုံး
သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ သစ်တောဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့သစ်လုပ်ငန်း
ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ညွှန်ကြားရေးမှူး၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ ရန်ကုန်တိုင်းဒေသကြီး
ရုံးလက်ခံ

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေအရ

# MYINT MYAT KYAWW INDUSTRY CO., LTD.

# မြင့်မြတ်ကျော်စက်မှုလက်မှု ကုမ္ပဏီလီမိတက်

၏

စတီးနှင့် အိပ်(ချ်)ဘင်းမ် များကိုအသုံးပြုထုတ်လုပ်ထားသော ဆောက်လုပ်ရေး
လုပ်ငန်းသုံးပစ္စည်းများ ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း

Manufacturing and Selling of Construction Materials
used by Steel & H-Beam

## အဆိုပြုလွှာ

**MYINT MYAT KYAWW INDUSTRY CO., LTD.**

Manufacturing and Selling of Construction Materials

used by Steel & H-Beam

၁။ **မာတိကာ**

၂။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုချက်များပေးပို့ခြင်း။ (မူရင်း)

မြန်မာနိုင်ငံ၊ နိုင်ငံခြားသားရင်းနှီးမြှုပ်နှံမှုဥပဒေ ပုဒ်မ–၂၀ တို့အရ အခွန်ဆိုင်ရာကင်းလွတ်ခွင့်နှင့်

၃။ သက်သာခွင့်များလျှောက်ထားခြင်း။ (မူရင်း)

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ လုပ်ငန်းဆောင်ရွက်ခြင်းနှင့် ပက်သက်၍ ကတိဝန်ခံချက် ပေးပို့ခြင်း

၄။ (မူရင်း)

ကုမ္ပဏီ၏ လူမှုရေးဆိုင်ရာတာဝန်ယူမှုများ **(Corporate Social Responsibility- CSR)** အားရှင်းလင်း

၅။ တင်ပြခြင်း။

၆။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ ရင်းနှီးမြှုပ်နှံမှု ခွင့်ပြုကာလအား အဆိုပြုတင်ပြခြင်း။

၇။ ဒါရိုက်တာများစာရင်း

၈။ ဘဏ္ဍာရေးအချက်အလက်များ

၉။ မီးဘေးကြိုတင်ကာကွယ်မှု အထောက်အထားတင်ပြခြင်း။

၁၀။ ပတ်ဝန်းကျင်ညစ်ညမ်းမှုမရှိစေရန် အခြေအနေတင်ပြခြင်း။

၁၁။ လုပ်ငန်းခွင်သာယာရေးနှင့် ဝန်ထမ်းသက်သာချောင်ချိရေးစီမံချက်။

၁၂။ ဝင်ငွေခွန်ပေးဆောင်မည်ဖြစ်ကြောင်း ဝန်ခံချက်တင်ပြခြင်း။

၁၃။ ရင်းနှီးမြှုပ်နှံမှုသက်တမ်းတင်ပြခြင်း။

၁၄။ လျှပ်စစ်ဓါတ်အားသုံးစွဲမှု အစီအစဉ်တင်ပြခြင်း။

၁၅။ နည်းပညာရယူခြင်းအတွက် ရှင်းလင်းတင်ပြခြင်း။

၁၆။ ထုတ်လုပ်မည့်ပစ္စည်းအမျိုးမျိုး ပုံစံများ

၁၇။ အဆောက်အဦပုံစံများ

၁၈။ ငွေရေးကြေးရေးအထောက်အထားများ

၁၉။ မြေငှားရမ်းမှု အထောက်အထားများ

၂၀။ တည်နေရာပြမြေပုံ

၂၁။ ဒါရိုက်တာများ၏ မှတ်ပုံတင်မိတ္တူများ

၂၂။ ကုမ္ပဏီကဒ်မိတ္တူ

ကုမ္ပဏီ၏ စာရွက်စာတမ်းများ

# MYINT MYAT KYAWW INDUSTRY COMPANY LIMITED

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၊
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊
ရန်ကုန်တိုင်းဒေသကြီး။

ရက်စွဲ ။ ။၂၀၁၇ခုနှစ်၊ ဇန်နဝါရီလ(၃၀)ရက်။

အကြောင်းအရာ။ ။ အဆိုပြုလွှာပြင်ဆင်ချက်ပြန်လည်တင်ပြခြင်း။

ရည်ညွှန်းချက်။ ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၁၁.၁.၂၀၁၇)နေ့စွဲပါ
စာအမှတ် ၊ မရက-၃/မ-၁၄၄၉/၂၀၁၇(၄၈)

အထက်အကြောင်းအရာပါ ကိစ္စနှင့်ပက်သက်၍ ကျွန်တော်တို့ "Myint Myat Kyaww Industry Co., Ltd." သည် ရွှေပြည်သာမြို့နယ်၊ လှော်ကားကျေးရွာအုပ်စု၊ ကွင်းအမှတ်(၅၆၀)၊ ကရင်ချောင်းကွင်း၊ ဦးပိုင်အမှတ်(၁၀+၁၁+၁၃+၁၄)တွင် စတီးနှင့် အိပ်(ချ်)ဘင်းမ်းများကို အသုံးပြု၍ အသင့်ဖန်တီး ထုတ်လုပ်ထားသော ဆောက်လုပ်ရေးလုပ်ငန်းသုံးပစ္စည်းစက်ရုံ လုပ်ကိုင်နိုင်ရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု လျှောက်ထားသောကုမ္ပဏီဖြစ်ပါသည်။

အထက်ရည်ညွှန်းချက်ပါစာအရ အဆိုပြုလွှာအား ပြန်လည်ပြင်ဆင်ပြီး လိုအပ်သလိုအရေးယူဆောင်ရွက်နိုင်ပါရန် ပူးတွဲတင်ပြအပ်ပါသည်။

ရိုသေလေးစားစွာဖြင့်

Maung Maung Ohn
Managing Director
MYINT MYAT KYAWW
INDUSTRY CO., LTD.

No.(527-529),Lower Pazundaung Road,Pazundaung Township,Yangon,Myanmar.
☎ : 01-299201,01-9000300, 9000301,Fax: 202955

သို့

ဥက္ကဋ္ဌ

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး။

ရက်စွဲ။ ။၂၀၁၆ခုနှစ်၊ လ( )ရက်။

အကြောင်းအရာ။ ။ **<u>မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုလွှာတင်ပြခြင်း။</u>**

အထက်အကြောင်းအရာပါ ကိစ္စနှင့်ပက်သက်၍ ကျွန်တော်တို့၏ "Myint Myat Kyaww Industry Co., Ltd." သည် ရွှေပြည်သာမြို့နယ်၊ လှော်ကါးကျေးရွာအုပ်စု၊ ကွင်းအမှတ်(၅၆၁)၊ ကရင်ချောင်းကွင်း၊ ဦးပိုင်အမှတ်(၁၀+၁၁+၁၃+၁၄)တွင် စတီးနှင့် အိပ်(ချ်)ဘင်းမ်များကို အသုံးပြု၍ အသင့်ဖန်တီး ထုတ်လုပ်ထားသော ဆောက်လုပ်ရေးလုပ်ငန်းသုံးပစ္စည်းစက်ရုံ လုပ်ကိုင်နိုင်ရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု လျှောက်ထားသောကုမ္ပဏီ ဖြစ်ပါသည်။

သို့ပါ၍ ကျွန်တော်တို့ကုမ္ပဏီ၏ အဆိုပြုလွှာ(၂)စုံကို လိုအပ်သလိုစီစစ်ပေးနိုင်ပါရန် ပေးပို့တင်ပြအပ်ပါသည်။

ရိုသေလေးစားစွာဖြင့်

Maung Maung Ohn
Managing Director
MYINT MYAT KYAWW
INDUSTRY CO., LTD.

No.(527-529),Lower Pazundaung Road,Pazundaung Township,Yangon,Myanmar.
☎ : 01-299201,01-9000300, 9000301,Fax: 202955
E-mail:info@myintmyatkyaww.com Website: www.myintmyatkyaww.com

သို့

ဥက္ကဋ္ဌ

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၊

အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊

ရန်ကုန်တိုင်းဒေသကြီး။

ရက်စွဲ။ ။ ၂၀၁၆ ခုနှစ်၊ ဒီဇင်ဘာလ (၃၀)ရက်။

အကြောင်းအရာ။ ။ **မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုမိန့်နှင့် မြန်မာနိုင်ငံသားများ၏ ရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ–၂၀တို့အရ အခွန်ဆိုင်ရာကင်းလွတ်ခွင့်နှင့် သက်သာခွင့်များ လျှောက်ထားခြင်း။**

၁။ အထက်အကြောင်းအရာပါကိစ္စနှင့်စပ်လျဉ်း၍ မြန်မာနိုင်ငံကုမ္ပဏီများအက်ဥပဒေအရ တရားဝင်ဖွဲ့စည်းတည်ထောင်ထားသည့် "Myint Myat Kyaww Industry Co., Ltd." သည် ရွှေပြည်သာမြို့နယ်၊ လှော်ကား ကျေးရွာအုပ်စု၊ ကွင်းအမှတ်(၅၆၁)၊ ကရင်ချောင်းကွင်း၊ ဦးပိုင်အမှတ် (၁၀+၁၁+၁၃+၁၄)တွင် စတီးနှင့် အိပ်(ချ်)ဘင်းမ်း များကို အသုံးပြု၍ အသင့်ဖန်တီးထုတ်လုပ်ထားသော ဆောက်လုပ်ရေးလုပ်ငန်းသုံး ပစ္စည်းစက်ရုံ လုပ်ကိုင်နိုင်ရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု လျှောက်ထားသော ကုမ္ပဏီဖြစ်ပါသည်။

၂။ "Myint Myat Kyaww Industry Co., Ltd."သည် စုစုပေါင်းရင်းနှီးမြှုပ်နှံမှု ကျပ်(၄၉,၉၅၀.၀၀)သန်း ရင်းနှီးမြှုပ်နှံမည်ဖြစ်ပါသည်။ လုပ်ငန်းအတွက် လိုအပ်သော ငွေကြေးမြန်မာကျပ် သန်း (၃၀,၀၀၀) အားဘဏ်မှ ချေးယူလုပ်ကိုင်သွားမည်ဖြစ်ပါသည်။

၃။ သို့ဖြစ်ပါ၍နိုင်ငံတော်အတွက် အခွန်ဘဏ္ဍာငွေများရရှိစေရန်အတွက်လည်းကောင်း၊ မြန်မာနိုင်ငံသားများအတွက် အလုပ်အကိုင်သစ်များ ပေါ်ပေါက်စေရန်အတွက်လည်းကောင်း၊ မြန်မာနိုင်ငံ၏စီးပွားရေးဖွံ့ဖြိုးတိုးတက်လာစေရန် အတွက်လည်းကောင်း ကျွန်တော်တို့လျှောက်ထားခြင်းကို လက်ခံစဉ်းစားပေးပါရန်နှင့် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေအသစ်အရ အခွန်ဆိုင်ရာကင်းလွတ်ခွင့်နှင့် သက်သာခွင့်တို့ကိုလည်း ခံစားခွင့်ပြုပါရန် လျှောက်ထားအပ်ပါသည်။

No.(527-529),Lower Pazundaung Road,Pazundaung Township,Yangon,Myanmar.
☎ : 01-299201,01-9000300, 9000301,Fax: 202955
E-mail:info@myintmyatkyaww.com, Website: www.myintmyatkyaww.com

၄။ ထို့အပြင်စတီးနှင့် အိပ်(ချ်)ဘင်းမ်းများကို အသုံးပြု၍ အသင့်ဖန်တီးထုတ်လုပ်ထားသော ဆောက်လုပ်ရေးလုပ်ငန်းသုံး ပစ္စည်းစက်ရုံ မှရရှိလာသော ပထမ(၅)နှစ်အတွက် ကုန်သွယ်လုပ်ငန်းခွန်နှင့် ဝင်ငွေခွန်တို့ကို သက်သာခွင့်ပြုပါရန်အတွက် စီမံကိန်းဝန်ကြီးဌာန သို့လျှောက်ထားခွင့်ပြုပါရန် မေတ္တာရပ်ခံတင်ပြအပ်ပါသည်။

၅။ အဆိုပါရင်းနှီးမြှုပ်နှံမှုလုပ်ငန်းအတွက်မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်အနေဖြင့် ခွင့်ပြုမိန့်ထုတ်ပေးနိုင်ပါရန် ဤလျှောက်လွှာနှင့်အတူ အောက်ဖော်ပြပါအထောက်အထား စာရွက်စာတမ်းများကို ပူးတွဲတင်ပြအပ်ပါသည်။

(၁) ပြည်ထောင်စုမြန်မာနိုင်ငံတော်အတွင်းမြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုပြုလုပ်ရန်ကမကထပြုသူ၏ လုပ်ငန်းဆောင်ရွက်ရန်အဆိုပြုချက်။

(၂) ဘဏ္ဍာရေးအချက်အလက်များနှင့်ပတ်သက်၍တွက်ချက်မှုဇယားများ၊

(၃) မြေနှင့်အဆောက်အဦပိုင်ဆိုင်ခွင့်အထောက်အထား၊

(၄) လုပ်ငန်းပိုင်းနှင့်ငွေရေးကြေးရေးအထာက်အထားများ၊

(၅) ကုမ္ပဏီသင်းဖွဲ့မှတ်တမ်းနှင့်သင်းဖွဲ့စည်းမျဉ်းများ

ရိုသေလေးစားစွာဖြင့်

No.(527-529),Lower Pazundaung Road,Pazundaung Township,Yangon,Myanmar.
☎ : 01-299201,01-9000300, 9000301,Fax: 202955
E-mail:info@myintmyatkyaww.com, Website: www.myintmyatkyaww.com

**MYINT MYAT KYAWW INDUSTRY COMPANY LIMITED**

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၊
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊
ရန်ကုန်တိုင်းဒေသကြီး။

ရက်စွဲ ။ ။၂၀၁၆ခုနှစ်၊ လ ( )ရက်။

အကြောင်းအရာ။ ။ **မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ လုပ်ငန်းဆောင်ရွက်ခြင်းနှင့် ပက်သက်၍ ကတိဝန်ခံချက် ပေးပို့ခြင်း။**

အထက်အကြောင်းအရာပါကိစ္စနှင့်စပ်လျဉ်း၍ မြန်မာနိုင်ငံကုမ္ပဏီများအက်ဥပဒေအရ တရားဝင်ဖွဲ့စည်းတည်ထောင်ထားသည့် "Myint Myat Kyaww Industry Co., Ltd." သည် ရွှေပြည်သာမြို့နယ်၊ လှော်ကါးကျေးရွာအုပ်စု၊ ကွင်းအမှတ်(၅၆၁)၊ ကရင်ချောင်းကွင်း၊ ဦးပိုင်အမှတ် (၁၀+၁၁+၁၃+၁၄)တွင် စတီးနှင့်အိပ်(ချ်)ဘင်မ်း များကို အသုံးပြု၍ အသင့်ဖန်တီးထုတ်လုပ်ထားသော ဆောက်လုပ်ရေးလုပ်ငန်းသုံး ပစ္စည်းစက်ရုံလုပ်ကိုင်နိုင်ရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုလွှာ လျှောက်ထားသော ကုမ္ပဏီဖြစ်ပါသည်။ ထိုသို့လျှောက်ထား ရာတွင် ခွင့်ပြုမိန့်ရရှိရန်အတွက် အောက်ပါတို့ကို ဝန်ခံကတိပြုပါသည်။

(က) ဤလုပ်ငန်းသည် မြန်မာနိုင်ငံသား ၁၀၀% ရင်းနှီးမြှုပ်နှံသောလုပ်ငန်းဖြစ်ပါသည်။ ဤလုပ်ငန်းတွင် နိုင်ငံခြားမှ မည်သူမျှ ပိုင်ဆိုင်မှုမရှိပါကြောင်းဝန်ခံကိပြုတင်ပြအပ်ပါသည်။

(ခ) ဤလုပ်ငန်းသည် လုပ်ငန်းအသစ်ဖြစ်ကြောင်း ဝန်ခံကတိပြုပါသည်။

(ဂ) ဤလုပ်ငန်းမှ ထွက်ရှိလာသော ကုန်ချောပစ္စည်းများကို ပြည်တွင်း၌ရောင်းချရန် ဈေးကွက်ရှိပြီးဖြစ်ပါသည်။

(ဃ) နိုင်ငံတော် အစိုးရမှ မြေယာနှင့်ပက်သက်၍ သတ်မှတ်ပြဋ္ဌာန်းသည့် စည်းကမ်းသတ်မှတ်ချက်များကို လိုက်နာဆောင်ရွက်ပါမည်ဟု ကတိပြုပါသည်။

(င) မြင့်မြတ်ကျော်စက်မှုလက်မှု ကုမ္ပဏီလီမိတက်အနေဖြင့် ပြည်ပမှ ဝယ်ယူတင်သွင်းမည့် စက်ပစ္စည်းများမှာလည်း ကောင်းမွန်သော အရည်အသွေးရှိသော ပစ္စည်းများကိုသာ တင်သွင်းမည်ဖြစ်ကြောင်း ဝန်ခံကတိပြုအပ်ပါသည်။

(စ) ထို့အပြင် ကျွန်တော်များ ကုမ္ပဏီအနေဖြင့် လုပ်ငန်းဆောင်ရွက်ရာတွင်လည်း ပတ်ဝန်းကျင် ညစ်ညမ်းမှု မဖြစ်ပွားစေရန်အတွက် လိုအပ်သော အစီအမံများ၊ မိဘောကြိုတင် ကာကွယ်မှုများ ပြုလုပ်ဆောင်ရွက်ထားမည်ဖြစ်ပါကြောင်းနှင့် ပြည်ထောင်စု မြန်မာနိုင်ငံတော်၏ နည်းဥပဒေ စည်းမျဉ်း၊ စည်းကမ်း၊လုပ်ထုံးလုပ်နည်းများနှင့်အညီ ပတ်ဝန်းကျင် ညစ်ညမ်းမှု မရှိစေရန် အကောင်အထည်ဖော် ဆောင်ရွက်သွားမည်ဟု ဝန်ခံကတိပြုပါသည်။

(ဆ) **"Myint Myat Kyaww Industry Co.,Ltd."** အနေဖြင့်ပုဂ္ဂလိက စက်မှုလုပ်ငန်း ဥပဒေအရ ပြည်နယ်/တိုင်းဒေသန္တရ စက်မှုကြီးကြပ်ရေးနှင့် လုပ်ငန်းစစ်ဆေးမှု ညွှန်ကြားရေး ဦးစီးဌာန တို့တွင်မှတ်ပုံတင်ထားရှိမည်ဖြစ်ကြောင်း ဝန်ခံကတိပြုပါသည်။

ရိုသေလေးစားစွာဖြင့်

Maung Maung Ohn
Managing Director
MYINT MYAT KYAWW
INDUSTRY CO., LTD.

No.(527-529),Lower Pazundaung Road,Pazundaung Township,Yangon,Myanmar.
☎ : 01-299201,01-9000300, 9000301,Fax: 202955
E-mail:info@myintmyatkyaww.com, Website: www.myintmyatkyaww.com

